# ကရင်လူမျိုးတို့၏ ၁၃-လပြက္ခဒိန်အကြောင်း သိကောင်းစရာ

.......................

ရှေးအခါက ပိုးကရင်လူမျိုးတို့ဟာ ဗမာလူမျိုးတို့နည်းတူ တပေါင်းလနဲ့ထပ်တူညီတဲ့ တဖန်း-တဖနဲ့ မှအစပြုပြီး တပို့တွဲလနဲ့ထပ်တူညီတဲ့ ထိုင့်ခေါက်ဗိုး-ထိုင်ခုတ်ဗို မှာကုန်ဆုံးတဲ့ ပိုးကရင် ၁၂-လပြက္ခဒိန်ကို အသုံးပြုခဲ့ကြပြီး နောက်ပိုင်းမှာ ဗမာလူမျိုးတို့နည်းတူ တန်ခူးလနဲ့ထပ်တူညီတဲ့ လာတာ-လားတား မှအစပြုပြီး တပေါင်းလနဲ့ထပ်တူညီတဲ့ တဖန်း-တဖနဲ့ မှာကုန်ဆုံးတဲ့ ပိုးကရင် ၁၂-လပြက္ခဒိန်ကိုအသုံးပြုခဲ့ကြပါတယ်။

ယခုအခါ စကောကရင် နဲ့ ပိုးကရင်လူမျိုးအများစုဟာ ပြာသိုလဆန်း(၁)ရက်မှာကျရောက်တဲ့ ကရင်နှစ်သစ်ကူးနေ့ကိုအကြောင်းပြုပြီး ပြာသိုလနဲ့ ထပ်တူညီတဲ့ သလေ-ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို မှအစပြုပြီး နတ်တော်လနဲ့ထပ်တူညီတဲ့ လားပလူ-လာလိန်-လားလိန်း တို့မှာကုန်ဆုံးတဲ့ ကရင် ၁၂-လပြက္ခဒိန်တို့ကို အသုံးပြုလျက်ရှိပါတယ်။

၁၉၅၀-ပြည့်နှစ် ဩဂုတ်လ(၁၂)ရက်မှာ ကေအဲင်ယူဥက္ကဋ္ဌ စောဘဦးကြီး ကျဆုံးသွားခဲ့ပြီးတဲ့နောက် မြစ်ဝကျွန်းပေါ်တိုင်းရဲ့ နိုင်ငံရေးတာဝန်ခံဖြစ်တဲ့ ပဒိုစောဟန်တာသာမွေးဟာ ကေအဲင်ယူဥက္ကဋ္ဌတာဝန်ကို ရယူထမ်းဆောင်ခဲ့ပါတယ်။ တစ်နေ့ ဖာပွန် လူသောခိုကျေးရွာမှာနေထိုင်တဲ့ ဖူးဆယ်လယ်ပါ ဆိုသူဟာ ပဒိုစောဟန်တာသာမွေးထံ လာရောက်တွေ့ဆုံပြီး ဖာပွန်တောင်ပေါ်ဒေသမှာနေထိုင်တဲ့ စကောကရင်လူမျိုးများ အသုံးပြုကြတဲ့ ၁၃-လပါရှိတဲ့ သစ်သားပြက္ခဒိန်ကို ပြသခဲ့ပါတယ်။

၁၉၆၄-ခုနှစ် မှာ ကျင်းပခဲ့တဲ့ မြန်မာပြည်တွင်းငြိမ်းချမ်းရေးဆွေးနွေးပွဲမှာ ပဒိုစောဟန်တာသာမွှေး ခေါင်းဆောင်တဲ့ ကရင်တော်လှန်ရေးကောင်စီဟာ ငြိမ်းချမ်းရေးကိုရယူခဲ့ပါတယ်။ ကရင်တော်လှန်ရေး ကောင်စီဟာတိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီ လို့ ခေါ်တဲ့ ကော်မတီတစ်ရပ်ကို ဖွဲ့စည်းပေးခဲ့ပြီး ကရင်ပြက္ခဒိန်များကိုပြုစုထုတ်ဝေစေခဲ့ပါတယ်။

ဖော်ပြပါ ကရင်ရိုးရာပြက္ခဒိန်ကော်မတီဟာ ဖူးဆယ်လယ်ပါရဲ့ ၁၃-လ ပါရှိတဲ့ သစ်သားပြက္ခဒိန်ကို အခြေခံတဲ့ စကောကရင် ၁၃-လပြက္ခဒိန် နဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်တို့ကိုပြုစုထုတ်ဝေခဲ့ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်မှာပါရှိတဲ့လများနဲ့ ၎င်းတို့နဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်များကတော့ အောက်ပါအတိုင်းဖြစ်ပါတယ်။

၁။ သလေ-သလှ႑

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ နှစ်ဦးလကို စကောကရင်လို သလေ လို့ခေါ်ပါတယ်။ လွတ်လပ်ခြင်း လို့ အဓိပ္ပါယ်ရပါတယ်။ တစ်နှစ်တာ ကာလအတွင်း လုပ်ကိုင်ခဲ့ရတဲ့အလုပ်အားလုံး ပြီးစီးသွားခဲ့ပြီးတဲ့နောက် ကရင်လူမျိုးတို့ လွတ်လပ်စွာအနားယူခွင့်ရတဲ့လ ဖြစ်တဲ့ အတွက် ၎င်းလကို စကောကရင်လူမျိုးတို့က သလေ လို့ ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ဦးလဖြစ်တဲ့ သလေ မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး (ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ တပို့တွဲလနဲ့ ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၂။ ထေးခု-ထုခူး

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒုတိယမြောက်လကို စကောကရင်လို ထေးခု လို့ခေါ်ပါတယ်။ ထေး ဆိုတဲ့ စကားလုံးက စကောကရင်လို ရက်ခြင်း လို့ အဓိပ္ပါယ်ရပြီး ခု ဆိုတဲ့စကားလုံးက စကောကရင်လို ခုတ်ခြင်းလို့ အဓိပ္ပါယ်ရပါတယ်။ အဆိုပါလမှာ ကရင်အမျိုးသမီးတို့က ပလိုင်း၊တောင်း၊ပလုံး စသည်တို့ကို ရက်ကြပြီး ကရင်အမျိုးသားတို့က တောင်ယာခုတ်တဲ့လ ဖြစ်တဲ့ အတွက် ၎င်းလကို စကောကရင်လူမျိုးတို့က ထေးခု လို့ ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒုတိယမြောက်လ ဖြစ်တဲ့ ထေးခု မှာ ၃၀-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ တပေါင်းလနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၃။ သွေးကော-သွကို

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ တတိယမြောက်လကို စကောကရင်လို သွေးကော လို့ခေါ်ပါတယ်။ ၎င်းလမှာ စကောကရင်လို သီသွေး လို့ခေါ်တဲ့ ပိုးကောင်တစ်မျိုး အော်မြည်လေ့ရှိပါတယ်။ ကော ဆိုတဲ့ စကားလုံးက စကောကရင်လို ပူပြင်းခြောက်သွေ့ခြင်းဆိုတဲ့အဓိပ္ပါယ်ကိုဖော်ညွှန်းပါတယ်။ အထက်ပါ သီသွေး နဲ့ ကော ဆိုတဲ့ ဝေါဟာရနှစ်ရပ်ကိုအကြောင်းပြုပြီး ၎င်းလကို စကောကရင်လူမျိုးတို့က သွေးကော လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ တတိယမြောက်လ ဖြစ်တဲ့ သွေးကော မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ တန်ခူးလနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၄။ လားခလီး-လါချ့

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့စတုတ္ထမြောက်လကို စကောကရင်လို လားခလီး လို့ခေါ်ပါတယ်။ ခလီး ဆိုတဲ့ စကားလုံးဟာ စကောကရင်လို သစ်စေ့လို့ အဓိပ္ပါယ်ရပါတယ်။ မိုးရာသီသို့စတင်ရောက်ရှိလာပြီဖြစ်တဲ့အတွက် ကရင်လူမျိုးတို့ဟာ ၎င်းတို့သိုလှောင်စုဆောင်းထားရှိတဲ့ သီးနှံပင်အမျိုးမျိုးတို့ရဲ့မျိုးစေ့များကို စတင်စိုက်ပျိုးတဲ့လဖြစ်ခြင်းကြောင့် ၎င်းလကို စကောကရင်လူမျိုးတို့က လားခလီး လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့စတုတ္ထမြောက်လဖြစ်တဲ့ လားခလီး မှာ ၁၅-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ ကဆုန်လဆန်း(၁)ရက် မှ ကဆုန်လပြည့်နေ့အထိ၊ နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာလူမျိုးတို့ရဲ့ ကဆုန်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၅။ ဒေညား-ဒ့ၣ်ညါ

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ပဥ္စမမြောက်လကို စကောကရင်လို ဒေညား လို့ခေါ်ပါတယ်။ အဆိုပါလမှာ စကောကရင်လို ဖောဒေညား လို့ခေါ်တဲ့ နှင်းပန်းများ ဖူးပွင့်လေ့ရှိပါတယ်။ ထိုကဲ့သို့ ဖောဒေညား လို့ခေါ်တဲ့ နှင်းပန်းများဖူးပွင့်လေ့ရှိတဲ့လဖြစ်တဲ့အတွက် ၎င်းလကို စကောကရင်လူမျိုးတို့က ဒေညား လို့ ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ပဥ္စမမြောက်လဖြစ်တဲ့ ဒေညား မှာ ၁၅-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ ကဆုန်လဆုတ်(၁)ရက်မှကဆုန်လကွယ်နေ့အထိ၊နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာလူမျိုးတို့ရဲ့နယုန်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၆။ လားဃှူး-လါဃု

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ဆဋ္ဌမမြောက်လကို စကောကရင်လို လားဃှူး လို့ ခေါ်ပါတယ်။ ရှေးအခါက ၄င်းလကို စကောကရင်လို လားဃှူ(တောင်ယာလ)လို့ ခေါ်ကြပါတယ်။ အဆိုပါလဟာ စကောကရင် ၁၃-လ ပြက္ခဒိန်ရဲ့ အမှတ်စဉ်(၆)မှာတည်ရှိတဲ့အတွက် ၄င်းလကို စကောကရင်လူမျိုးတို့က ဆဋ္ဌမမြောက်လလို့ အဓိပ္ပါယ် ရတဲ့ လားဃှူး လို့ပြောင်းလဲခေါ်ဝေါ်ခဲ့ကြပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ဆဋ္ဌမမြောက်လ ဖြစ်တဲ့ လားဃှူး မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ နယုန်လ၊ နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာ လူမျိုးတို့ရဲ့ ပထမဝါဆိုလနဲ့ကိုက်ညီအောင်ရေးဆွဲထားပါ ပါတယ်။

၇။ လားနွီး-လါနွံ

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ သတ္တမမြောက်လကို စကောကရင်လို လားနွီး လို့ခေါ်ပါတယ်။ ၄င်းလမှာ လေမိုးသည်းထန်စွာ တိုက်ခတ်ရွာသွန်းလေ့ရှိတဲ့အတွက် သစ်ပင်ဝါးပင်များ ကိုင်းညွတ်လွန့်လူးနေလေ့ရှိပါတယ်။ ထိုကဲ့သို့သစ်ပင်ဝါးပင်များကိုင်းညွတ်လွန့်လူးနေခြင်းကို စကောကရင်လို တနွီး လို့ခေါ်ပါတယ်။ အဆိုပါ တနွီး ဆိုတဲ့ စကားလုံးကို အကြောင်းပြုပြီး ၄င်းလကို စကော ကရင်လူမျိုးတို့က လားနွီး လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ သတ္တမမြောက်လ ဖြစ်တဲ့ လားနွီး မှာ ၃၀-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ ဝါဆိုလ၊ နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာ လူမျိုးတို့ရဲ့ ဒုတိယဝါဆိုလနဲ့ကိုက်ညီအောင်ရေးဆွဲထား ပါတယ်။

၈။ လားဃို့-လါဃိး

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ အဋ္ဌမမြောက်လကို စကောကရင်လို လားဃို့ လို့ခေါ်ပါတယ်။ ဃို့ ဆိုတဲ့ စကားလုံးဟာ စကောကရင်လို ပျားဖယောင်းလို့ အဓိပ္ပါယ်ရပါတယ်။ ရှေးအခါက ကရင်လူမျိုးတို့ဟာ စကောကရင်လို ဃို့ လို့ခေါ်တဲ့ ပျားဖယောင်းများနဲ့ အခွန်ဆောင်ကြရပါတယ်။ ထိုကဲ့သို့ ဃို့ လို့ခေါ်တဲ့ ပျားဖယောင်းများနဲ့ အခွန်ဆောင်တဲ့လ ဖြစ်တဲ့အတွက် ၎င်းလကို စကောကရင်လူမျိုးတို့က လားဃို့ လို့ ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ အဋ္ဌမမြောက်လ ဖြစ်တဲ့ လားဃို့ မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ ဝါခေါင်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၉။ လားခု-လါခုး

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ နဝမမြောက်လကို စကောကရင်လို လားခု လို့ခေါ်ပါတယ်။ အဆိုပါလမှာ မိုးသည်းထန်စွာရွာသွန်းလေ့ရှိခြင်းကြောင့် မြေပြင်ပေါ်မှာ ရေကြီးရေလျှံနေလေ့ရှိပါတယ်။ ထိုကဲ့သို့ မြေပြင်ပေါ်မှာ ရေကြီးရေလျှံနေခြင်းကြောင့် စကောကရင်လို တခု လို့ခေါ်တဲ့ ဖွတ်သတ္တဝါများ သစ်ပင်ပေါ်သို့တက်ပြီး ဥကြတဲ့လဖြစ်တဲ့အတွက် ၎င်းလကို စကောကရင်လူမျိုးတို့က လားခု လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ နဝမမြောက်လ ဖြစ်တဲ့ လားခု မှာ ၃၀-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ တော်သလင်းလနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၁၀။ ဆိမ္မ-ဆံးမုၵ်

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒသမမြောက်လကို စကောကရင်လို ဆိမ္မ လို့ခေါ်ပါတယ်။ဆိ ဆိုတဲ့စကားလုံးဟာ စကောကရင်လို သေးငယ်ခြင်းလို့ အဓိပ္ပါယ်ရပြီး မ္မ ဆိုတဲ့စကားလုံးက စကောကရင်လို နေ လို့အဓိပ္ပါယ်ရပါတယ်။ မိုးကောင်းကင်မှာရှိတဲ့မိုးတိမ်တွေကြားက အရွယ်ပမာဏသေးငယ်တဲ့ နေကိုမြင်ရတဲ့လ ဖြစ်တဲ့အတွက် ၎င်းလကို စကောကရင်လူမျိုးတို့က ဆိမ္မ လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒသမမြောက်လဖြစ်တဲ့ ဆိမ္မ မှာ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ သီတင်းကျွတ်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၁၁။ ဆိဆာ-ဆံးဆၣ်

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ကေဒသမမြောက်လ(တစ်ဆယ့်တစ်လမြောက်လ)ကို စကောကရင်လို ဆိဆာ လို့ခေါ်ပါတယ်။ ဆိ ဆိုတဲ့စကားလုံးက စကောကရင်လို သေးငယ်ခြင်း လို့အဓိပ္ပါယ်ရပြီး ဆာ ဆိုတဲ့စကားလုံးက စကောကရင်လို ကြယ် လို့ အဓိပ္ပါယ်ရပါတယ်။ အထက်မိုးကောင်းကင်မှာရှိတဲ့ မိုးတိမ်တွေကြားက သေးငယ်တဲ့ကြယ်များကိုမြင်ရတဲ့လဖြစ်တဲ့အတွက် ၎င်းလကိုစကောကရင်လူမျိုးတို့က ဆိဆာ လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ကေဒသမမြောက်လ(တစ်ဆယ့်တစ်လမြောက်လ)ဖြစ်တဲ့ ဆိဆာ မှာ ၃၀-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ တန်ဆောင်မုန်းလနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၁၂။ လားနော-လါနီ

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ဒွါဒသမမြောက်လ (တစ်ဆယ့်နှစ်လမြောက်လ)ကို စကောကရင်လို လားနော လို့ခေါ်ပါတယ်။ အဆိုပါလမှာ စကောကရင်လို နော လို့ခေါ်တဲ့ နှမ်းနဲ့ဆင်တူတဲ့အပင်တစ်မျိုးပွင့်သီးလေ့ရှိပါတယ်။ နော ရဲ့အစေ့ဟာ အဖြူရောင်ဖြစ်ပြီး ဆိမ့်တဲ့အရသာရှိပါတယ်။ ကရင်လူမျိုးတို့ ခေါပျဉ်ကိုထောင်းတဲ့အခါ ဆုံထဲမှာကောက်ညှင်းများကပ်မနေအောင် နော ရဲ့အစေ့များကိုဆုံထဲသို့ ဖြူးထည့်ပေးရပါတယ်။ နော ရဲ့အစေ့များကို ခါချတဲ့လဖြစ်တဲ့အတွက် ၎င်းလကို စကောကရင်လူမျိုးတို့က လားနော လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒွါဒသမမြောက်လ (တစ်ဆယ့်နှစ်လမြောက်လ)ဖြစ်တဲ့ လားနော မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်နဲ့နှစ်ကြီးနှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ နတ်တော်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၁၃။ လားပလူ-လါပျူ

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ကုန်လကို စကောကရင်လို လားပလူ လို့ခေါ်ပါတယ်။ ကွယ်လွန်သွားသူတို့ကို စကောကရင်လို ပလူ လို့ခေါ်ပါတယ်။ တစ်နှစ်တာကာလအတွင်း မြေကြီးထဲမှာမြှုပ်ထားတဲ့ ကွယ်လွန်သွားသူတို့ရဲ့ ရုပ်အလောင်းများကို ပြန်လည်တူးဖော်ပြီး မီးသဂြိုလ်တဲ့လဖြစ်တဲ့အတွက် ၎င်းလ ကို စကောကရင်လူမျိုးတို့က လားပလူ လို့ခေါ်ခြင်းဖြစ်ပါတယ်။

စကောကရင် ၁၃-လပြက္ခဒိန်ရဲ့နောက်ဆုံးလဖြစ်တဲ့ လားပလူ မှာ ၃၀-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်) နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ ပြာသိုလနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

အထက်မှာဖော်ပြခဲ့တဲ့အတိုင်း ပဒိုစောဟန်တာ သာမွေးကြီးမှူးဖွဲ့စည်းပေးခဲ့တဲ့တိုင်းရင်းသားကရင်ရိုးရာ ပြက္ခဒိန်ကော်မတီဟာ ရှေးဦးစွာ စကောကရင် ၁၃-လ ပြက္ခဒိန်ကိုပြုစုထုတ်ဝေခဲ့ပြီးနောက် ပိုးကရင် ၁၃-လ ပြက္ခဒိန်ကိုလည်း ဆက်လက်ပြုစုထုတ်ဝေခဲ့ပါတယ်။ အဆိုပါ တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီက ပြုစုထုတ်ဝေခဲ့တဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်မှာပါရှိတဲ့ လများနဲ့ ၎င်းတို့နဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်များ ကတော့အောက်ပါအတိုင်းဖြစ်ပါတယ်။

၁။ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို-ထဲၤချူၤဖိၢ

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ဦးလကို ပိုးကရင်လို ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို လို့ခေါ်ပါတယ်။ ထိုင့်-ထိုင် ဆိုတဲ့ စကားလုံးက ပိုးကရင်လို ရက်ခြင်း၊ ခေါက်-ခုတ် ဆိုတဲ့ စကားလုံးက ပိုးကရင်လို ခုတ်ခြင်း၊ ဖိုး-ဖို ဆိုတဲ့ စကားလုံးက ပိုးကရင်လို သေးငယ်ခြင်း လို့ အဓိပ္ပါယ်ရ ပါတယ်။ အဆိုပါလမှာ ကရင်အမျိုးသမီးတို့က ပလိုင်း၊ တောင်း၊ပလုံး တို့ကိုရက်ကြပြီး ကရင်အမျိုးသားတို့က တောင်ယာခုတ်ကြပါတယ်။ ကရင်လူမျိုးတို့ဟာ အဆိုပါလမှာ ဖော်ပြပါအလုပ်များကို အားသွန်ခွန်စိုက် လုပ်ကိုင်ခြင်းမရှိသေးတဲ့အတွက် ၎င်းလကို ပိုးကရင် လူမျိုးတို့က ထိုင့်ခေါက်ဖိုး- ထိုင်ခုတ်ဖို လို့ခေါ်ခြင်းဖြစ် ပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ဦးလဖြစ်တဲ့ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ် (ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့တပို့တွဲလ၊ နှစ်ကြီး (ဝါထပ်နှစ်)ကို ဗမာလူမျိုးတို့ရဲ့ တပေါင်းလနဲ့ကိုက်ညီ အောင်ရေးဆွဲထားပါတယ်။

၂။ ထိုင့်ခေါက်ဗိုး-ထိုင်ခုတ်ဗို-ထဲ႙ူၚဗိ႓

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒုတိယမြောက်လကို ပိုးကရင်လို ထိုင့်ခေါက်ဗိုး-ထိုင်ခုတ်ဗို လို့ခေါ်ပါတယ်။ ဗိုး-ဗို ဆိုတဲ့ စကားလုံးဟာ ပိုးကရင်လို ကြီးမားခြင်း လို့အဓိပ္ပါယ်ရပါတယ်။ အဆိုပါလမှာ ကရင်အမျိုးသမီး တို့က ပလိုင်း၊တောင်း၊ပလုံး တို့ကို ရက်ကြပြီး ကရင် အမျိုးသားတို့က တောင်ယာခုတ်တဲ့လ ဖြစ်ပါတယ်။ ကရင်လူမျိုးတို့ဟာ အဆိုပါလမှာ ၎င်းအလုပ်များကို အားသွန်ခွန်စိုက် လုပ်ကိုင်ကြရတဲ့အတွက် ၎င်းလကို ပိုးကရင်လူမျိုးတို့က ထိုင့်ခေါက်ဗိုး-ထိုင်ခုတ်ဗို လို့ ခေါ်ခြင်းဖြစ်ပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒုတိယမြောက်လ ဖြစ်တဲ့ ထိုင့်ခေါက်ဗိုး-ထိုင်ခုတ်ဗို မှာ ၃၀-ရက် ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ တပေါင်းလ၊ နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာလူမျိုးတို့ရဲ့ တန်ခူးလ နဲ့ ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၃။ တဖန်း-တဖန့်-တဖး

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ တတိယမြောက်လကို ပိုးကရင်လို တဖန်း-တဖန့် လို့ခေါ်ပါတယ်။ ဗမာလူမျိုး တို့ရဲ့ တပေါင်းလကို ပိုးကရင်လူမျိုးတို့က ကရင်မှုပြု (မွေးစား)ပြီး ၎င်းတို့ရဲ့ဒေသအသံထွက်နဲ့ တဖန်း-တဖန့် လို့ ခေါ်ခြင်းဖြစ်ပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ တတိယမြောက်လဖြစ်တဲ့ တဖန်း-တဖန့် မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ တန်ခူးလ၊ နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာ လူမျိုးတို့ရဲ့ ကဆုန်လ နဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၄။ လာတာ-လားတား-လ‌ဥတဥ

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ စတုတ္ထမြောက်လကို ပိုးကရင်လို လာတာ-လားတား လို့ ခေါ်ပါတယ်။ ဗမာလူမျိုးတို့ရဲ့ အတာ(သင်္ကြန်)ဆိုတဲ့ဝေါဟာရကို ပိုးကရင်လို တာ-တား လို့ ခေါ်ပါတယ်။ အဆိုပါ တာ-တား ဆိုတဲ့ စကားလုံးကိုအကြောင်းပြုပြီး အဆိုပါလကို ပိုးကရင်လူမျိုးတို့က လာတာ-လားတား လို့ခေါ်ခြင်းဖြစ်ပါတယ်။ ဗမာလူမျိုးတို့ရဲ့ အတာ(သင်္ကြန်)ကျတဲ့လလို့ ဆိုလိုခြင်းဖြစ်ပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ စတုတ္ထမြောက်လဖြစ်တဲ့ လာတာ-လားတား မှာ ၁၅-ရက်ပါရှိပြီးနှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ ကဆုန်လဆန်း(၁)ရက်မှ ကဆုန်လပြည့်နေ့အထိ၊ နှစ်ကြီး(ဝါထပ်နှစ်)ကိုဗမာလူမျိုးတို့ရဲ့ ကဆုန်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၅။ လာယာ့-လားယာ-လဥယ‌ာ

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ ပဥ္စမမြောက်လကို ပိုးကရင်လို လာယာ့-လားယာ လို့ခေါ်ပါတယ်။ အဆိုပါလမှာ ပိုးကရင်လို ဖော့ယာ့-ဖော်ယာ လို့ခေါ်တဲ့နှင်းပန်းများ ဖူးပွင့်လေ့ရှိပါတယ်။ ထိုကဲ့သို့ ဖော့ယာ့-ဖော်ယာ လို့ခေါ်တဲ့ စကားလုံးမှာပါရှိတဲ့ ယာ့-ယာ ဆိုတဲ့ စာလုံးကို အကြောင်းပြုပြီး ၎င်းလကို ပိုးကရင်လူမျိုးတို့က လာယာ့-လားယာ လို့ခေါ်ခြင်းဖြစ်ပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ ပဥ္စမမြောက်လဖြစ်တဲ့ လာယာ့-လားယာ မှာ ၁၅-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ ကဆုန်လဆုတ်(၁)ရက်မှ ကဆုန်လကွယ်နေ့အထိ၊နှစ်ကြီး(ဝါထပ်နှစ်)ကိုဗမာလူမျိုးတို့ရဲ့ နယုန်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၆။ လာယှူး-လားယှူ-လဇပူ၊

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ဆဋ္ဌမမြောက်လကို ရှေးအခါက ပိုးကရင်လို လာယှော့က်-လားယှူတ် လို့ခေါ်ပါတယ်။ ယှော့က်-ယှူတ်(ဗုဒ) ဆိုတဲ့စကားလုံးဟာ ပိုးကရင်လို တောင်ယာ လို့ အဓိပ္ပါယ်ရတဲ့အတွက် လာယှော့က်-လားယှူတ် ဟာ ပိုးကရင်လို တောင်ယာကို စောင့်ရှောက်ပေးရတဲ့လလို့အဓိပ္ပါယ်ရပါတယ်။

ကရင်လူမျိုးတို့ဟာအဆိုပါလမှာတောင်ယာထဲမှာ နေထိုင်လေ့ရှိကြပြီး တောင်ယာထဲမှာစိုက်ပျိုးထားတဲ့ သီးနှံပင်တွေရဲ့ကြားမှာ အလေ့ကျပေါက်နေကြတဲ့ ပေါင်းပင်မြက်ပင်များကို ပေါင်းသင်ရှင်းလင်းပေးခြင်း၊ တောင်ယာထဲမှာစိုက်ပျိုးထားတဲ့သီးနှံပင်များကိုတောမီး လောင်ခြင်းမှလွတ်ကင်းရန်အကာအကွယ်(မီးတား)များ ပြုလုပ်ပေးခြင်း၊ တောင်ယာထဲမှာ စိုက်ပျိုးထားတဲ့ သီးနှံပင်များကို တောတိရစ္ဆာန်များလာရောက်ဖျက်ဆီး စားသောက်ခြင်းမခံရအောင်ကာကွယ်စောင့်ရှောက်ပေး ရတဲ့လဖြစ်တဲ့အတွက် ၎င်းလကို ပိုးကရင်လူမျိုးတို့က တောင်ယာကိုစောင့်ရှောက်ပေးရတဲ့လလို့အဓိပ္ပါယ်ရတဲ့ လာယှော့က်-လားယှူတ် လို့ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

အဆိုပါလဟာ ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ အမှတ်စဉ်(၆)မှာတည်ရှိတဲ့အတွက် ယခုအခါ ၎င်းလကို ပိုးကရင်လူမျိုးတို့က ဆဋ္ဌမမြောက်လလို့ အဓိပ္ပါယ်ရတဲ့ လာယှူး-လားယှူ လို့ပြောင်းလဲခေါ်ဝေါ်ခဲ့ကြပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ဆဋ္ဌမမြောက်လဖြစ်တဲ့ လာယှူး-လားယှူ မှာ ၂၉-ရက်ပါရှိပြီးနှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့နယုန်လ၊ နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာလူမျိုးတို့ရဲ့ ပထမဝါဆိုလနဲ့ကိုက်ညီအောင်ရေးဆွဲထား ပါတယ်။

၇။ လာနီွး-လားနီွ-လဇနွၢ

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့သတ္တမမြောက်လကို ပိုးကရင်လို လာနီွး-လားနီွ လို့ခေါ်ပါတယ်။ ရှေးအခါက ကရင်လူမျိုးတို့ဟာ အခွန်ပေးဆောင်ရာမှာ လိုအပ်တဲ့ ပျားဖယောင်းများကိုရရှိနိုင်ရန်အတွက် အဆိုပါလမှာ ပျားဖွတ်လေ့ရှိပါတယ်။

နေ့-နေ(နွၢ)ဆိုတဲ့ စကားလုံးဟာ ပိုးကရင်လို ပျားလို့အဓိပ္ပါယ်ရပါတယ်။ ကရင်လူမျိုးတို့ပျားဖွတ်လေ့ ရှိတဲ့လဖြစ်တဲ့အတွက် ရှေးအခါက ၎င်းလကို ပိုးကရင် လူမျိုးတို့က လာနေ့-လားနေ လို့ခေါ်ဝေါ်ခဲ့ကြပါတယ်။

ရှေးအခါက ဗမာလူမျိုးတို့ရဲ့ ပျားသိုလ ဆိုတဲ့ အမည်ဟာ ယခုအခါ ပြာသိုလ ဆိုတဲ့ အမည်သို့ ပြောင်းလဲမည်တွင်လာခဲ့သလို ရှေးအခါက ပိုးကရင် လူမျိုးတို့ရဲ့ လာနေ့-လားနေ ဆိုတဲ့ အမည်ဟာလည်း ယခုအခါ လာနီွး-လားနီွ ဆိုတဲ့အမည်သို့ ပြောင်းလဲ မည်တွင်လာခဲ့တယ်လို့ယူဆရပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့သတ္တမမြောက်လဖြစ်တဲ့ လာနီွး-လားနီွ မှာ ၃၀-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)ကို ဗမာလူမျိုးတို့ရဲ့ဝါဆိုလ၊ နှစ်ကြီး(ဝါထပ်နှစ်)ကို ဗမာ လူမျိုးတို့ရဲ့ ဒုတိယဝါဆိုလနဲ့ကိုက်ညီအောင်ရေးဆွဲထား ပါတယ်။

စာကြွင်း- ပိုးကရင်ကွန်ဖရင့်ကရေးသားပြုစုတဲ့ ကလေး များအတွက်ပညာပေးစာစောင် (လံၤမၤဆၢ၊ၓ့ဖိ၂၀၂ ဆၢ၊ ၁၂ယၢန၂၁၂)စာအုပ်မှာ လာနီွး-လားနီွ နဲ့ပတ်သက်ပြီး ပျားဖယောင်းများရရှိဖို့အတွက် ကရင်အမျိုးသားများ ပျားဖွတ်ကြတဲ့လဖြစ်တယ် (ပှၤခွၢလဖ၂ဘ၂လီၓ့ဘု၂နွၢ, ဘ်ၢဝီဒကနွဘ၂ဝီဒအဂၤလီၢ)လို့ ဖော်ပြထားပါတယ်။

၈။ လာဃှိ-လားဃှိ့-လဧဖိဒ

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ အဋ္ဌမမြောက်လကို ပိုးကရင်လို လာဃှိ-လားဃှိ့ လို့ခေါ်ပါတယ်။ ဃှိ-ဃှိ့ ဆိုတဲ့ စကားလုံးဟာ ပိုးကရင်လို ပျားဖယောင်း လို့ အဓိပ္ပါယ်ရပါတယ်။ ရှေးအခါက ကရင်လူမျိုးတို့ ဃှိ-ဃှိ့ လို့ ခေါ်တဲ့ ပျားဖယောင်းများနဲ့ အခွန်ဆောင်ကြရတဲ့လ ဖြစ်တဲ့အတွက် ၎င်းလကို ပိုးကရင်လူမျိုးတို့က လာဃှိ-လားဃှိ့ လို့ခေါ်ခြင်းဖြစ်ပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်မှာပါရှိတဲ့ လာဃှိ-လားဃှိ့ လို့ ခေါ်တဲ့လဟာ အဆိုပါပိုးကရင်ပြက္ခဒိန်ရဲ့ အမှတ်စဉ် (၈)မှာ တည်ရှိတဲ့အတွက် ၎င်းလကို ပိုးကရင်လူမျိုး အချို့က အဋ္ဌမမြောက်လလို့ အဓိပ္ပါယ်ရတဲ့ လာဃှိ-လားဃှိ့ လို့ ခေါ်ခြင်းဖြစ်တယ်လို့ ယူဆကြပါတယ်။ အဆိုပါအယူအဆဟာ ကရင်လများရဲ့ အမည်မှည့်ခေါ်ခြင်းနဲ့သက်ဆိုင်တဲ့ ကရင်သုတေသီပညာရှင်များရဲ့ မိန့်ဆိုချက်နဲ့ကိုက်ညီမှုမရှိပါဘူး။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ အဋ္ဌမမြောက်လဖြစ်တဲ့ လာဃှိ-လားဃှိ့မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ ဝါခေါင်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

စာကြွင်း- ပိုးကရင်ကွန်ဖရင့်ကရေးသားပြုစုတဲ့ ကလေးများအတွက်ပညာပေးစာစောင် (လ်ၤမဧဆၤဒု့ဖိ၂၁၂ ဆၤ ၁့၂ယၢန၂၁့၂)စာအုပ်မှာ လာဃှိ-လားဃှိ့ နဲ့ပတ်သက်ပြီး ပျားဖယောင်းနဲ့အခွန်ဆောင်ကြရပါတယ်။ အမျိုးသားများအတွက်ဆောင်ရတဲ့အခွန်ဖြစ်ပါတယ်။(ဘ၂လ့ဧဆီ၂့ ပှၡဧအခီၢ့လၢဖိဒလီၢ. ပှၡဧအခီၢ့နီ၂ မဲ့ပှၡဧအခွၢလီၢ)လို့ ရေးသားဖော်ပြထားပါတယ်။

၉။ လာခေါက်-လားခုတ်-လဥရွ

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ နဝမမြောက်လကို ပိုးကရင်လို လာခေါက်-လားခုတ် လို့ခေါ်ပါတယ်။ခေါက်-ခုတ် ဆိုတဲ့ စကားလုံးဟာ ပိုးကရင်လို ဖွတ်သတ္တဝါ လို့ အဓိပ္ပါယ်ရပါတယ်။ အဆိုပါလမှာ မိုးသည်းထန်စွာ ရွာသွန်းလေ့ရှိခြင်းကြောင့် မြေပြင်ပေါ်မှာရေကြီးရေလျှံ နေလေ့ရှိပါတယ်။ ထိုကဲ့သို့ မြေပြင်ပေါ်မှာရေကြီးရေလျှံ နေခြင်းကြောင့် ပိုးကရင်လို ခေါက်-ခုတ် လို့ခေါ်တဲ့ ဖွတ်သတ္တဝါတို့ဟာ သစ်ပင်ပေါ်သို့တက်ပြီး ဥလေ့ရှိပါတယ်။ ထိုကဲ့သို့ ဖွတ်သတ္တဝါတို့ဥတဲ့လဖြစ်တဲ့အတွက် ၎င်းလကို ပိုးကရင်လူမျိုးတို့က ဖွတ်ဥတဲ့လ လို့အဓိပ္ပါယ်ရတဲ့ လာခေါက်-လားခုတ် လို့ခေါ်ခြင်းဖြစ်ပါတယ်။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ နဝမမြောက်လဖြစ်တဲ့ လာခေါက်-လားခုတ် မှာ ၃၀-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)နဲ့နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ တော်သလင်းလနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

၁၀။ ဆီးမူး-ဆီမု-ဆံၢမု

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒသမမြောက်လကို ပိုးကရင်လို ဆီးမူး-ဆီမု လို့ခေါ်ပါတယ်။ စကောကရင် ပြက္ခဒိန်မှာပါရှိတဲ့ ဆီမူ ဆိုတဲ့ လရဲ့အမည်နဲ့ဆီလျော်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကိုတွေ့ရှိရပေမယ့်ပိုးကရင်ပြက္ခဒိန် မှာပါရှိတဲ့ ဆီးမူး-ဆီမု ဆိုတဲ့ လရဲ့အမည်နဲ့ဆီလျော်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကိုတော့မတွေ့ရှိရသေးပါဘူး။

ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ ဒသမမြောက်လဖြစ်တဲ့ ဆီးမူး-ဆီမု မှာ ၂၉-ရက်ပါရှိပြီး နှစ်ငယ်(ရိုးရိုးနှစ်)နဲ့ နှစ်ကြီး(ဝါထပ်နှစ်)နှစ်မျိုးစလုံးကို ဗမာလူမျိုးတို့ရဲ့ သီတင်းကျွတ်လနဲ့ကိုက်ညီအောင်ရေးဆွဲထားပါတယ်။

# ကရင်လူမျိုးတို့၏ ၁၃-လပြက္ခဒိန်အကြောင်း သိကောင်းစရာ

## (၂)

ကရင်တော်လှန်ရေးကောင်စီဥက္ကဋ္ဌ ပဒိုစောဟန်တာသာမွေးဟာ ကရင်ပြည်နယ်အတွင်းမှာ အခြေစိုက်ပြီး ကရင့်တော်လှန်ရေးကိုဆင်နွဲနေစဥ် တစ်နေ့မှာ ဖာပွန်မြောက်ပိုင်း လူသောခို လို့ခေါ်တဲ့အရပ်မှာ နေထိုင်တဲ့ ဖူးဆယ်လယ်ပါ ဆိုသူက ပဒိုစောဟန်တာသာမွေး ထံလာရောက်တွေ့ဆုံပြီး ဖာပွန်တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ စကောကရင်လူမျိုးတို့အသုံးပြုတဲ့ ၁၃-လ ပါရှိတဲ့ သစ်သားပြက္ခဒိန်နဲ့ အဆိုပါသစ်သားပြက္ခဒိန်ပါလများနဲ့ သက်ဆိုင်တဲ့အကြောင်းအရာများကိုရှင်းလင်းတင်ပြခဲ့ပါတယ်။

၁၉၆၃-ခုနှစ် မှာကျင်းပပြုလုပ်ခဲ့တဲ့ မြန်မာပြည်တွင်းငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးပွဲမှာ ပြည်ထောင်စုမြန်မာနိုင်ငံတော်လှန်ရေးအစိုးရ နဲ့ ကရင်တော်လှန်ရေးကောင်စီတို့ ငြိမ်းချမ်းရေးသဘောတူညီမှု ရရှိခဲ့ပြီးတဲ့နောက် ကရင်တော်လှန်ရေးကောင်စီဟာ ရန်ကုန်မြို့မှာအခြေစိုက်ပြီးကရင်ရိုးရာယဥ်ကျေးမှုဖွံ့ဖြိုးတိုးတက်ရေးအတွက် စတင်ကြိုးပမ်းလုပ်ဆောင်လာခဲ့ပါတယ်။ ကရင်တော်လှန်ရေးကောင်စီဟာ တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီကိုဖွဲ့စည်းခဲ့ပြီး ကရင်ပြက္ခဒိန်များကိုပြုစုထုတ်ဝေစေခဲ့ပါတယ်။

တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီဟာ ရှေးဦးစွာ ဖူးဆယ်လယ်ပါရဲ့၁၃-လပါရှိတဲ့ စကောကရင်သစ်သားပြက္ခဒိန်ကိုအခြေခံတဲ့ စကောကရင် ၁၃-လ ပြက္ခဒိန်ကိုရေးဆွဲပြုစုခဲ့ပြီးတဲ့နောက် ပိုးကရင် ၁၃-လ ပြက္ခဒိန်ကိုဆက်လက်ပြီးရေးဆွဲပြုစုခဲ့ပါတယ်။

ဖူးဆယ်လယ်ပါရဲ့ စကောကရင်သစ်သား ၁၃-ပြား ပြက္ခဒိန်၊ တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီရဲ့ စကောကရင် ၁၃-လပြက္ခဒိန်၊ စောဟားရေစီနဲ့ မန်းလင်းမြတ်ကျော်တို့ရဲ့ စာအုပ်စာတမ်းများမှာ ဖော်ပြထားတဲ့ စကောကရင် ၁၃-လပြက္ခဒိန်တို့ရဲ့ နှစ်ငယ် (ရိုးရိုးနှစ်)တို့မှာပါရှိတဲ့ စကောကရင်လများ၊ ၎င်းတို့နဲ့ ယှဉ်တွဲဖော်ပြထားတဲ့ ဗမာလများ နဲ့ အဆိုပါလများမှာ ပါရှိတဲ့ရက်များဟာ အောက်ပါအတိုင်း တူညီလျက်ရှိကြောင်းတွေ့ရှိရပါတယ်။

| စဥ်၊ အမည် | ရက် |
|---|---|
| ၀၁။ သလေ-တပို့တွဲ | ၂၉ |
| ၀၂။ ထေးခု-တပေါင်း | ၃၀ |
| ၀၃။ သွေးကော-တန်ခူး | ၂၉ |
| ၀၄။ လားခလီး-ကဆုန်လဆန်း | ၁၅ |
| ၀၅။ ဒေညား-ကဆုန်လဆုတ် | ၁၅ |
| ၀၆။ လားယှူး-နယုန် | ၂၉ |
| ၀၇။ လားနှီး-ဝါဆို | ၃၀ |
| ၀၈။ လားယှို့-ဝါခေါင် | ၂၉ |
| ၀၉။ လားခု-တော်သလင်း | ၃၀ |
| ၁၀။ ဆိမူ-သီတင်းကျွတ် | ၂၉ |
| ၁၁။ ဆိဆာ-တန်ဆောင်မုန်း | ၃၀ |
| ၁၂။ လားနော-နတ်တော် | ၂၉ |
| ၁၃။ လားပလူ-ပြာသို | ၃၀ |
| | ၃၅၄ |

ဖူးဆယ်လယ်ပါရဲ့ စကောကရင် သစ်သား ၁၃-ပြား ပြက္ခဒိန်၊ တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီရဲ့ စကောကရင် ၁၃-လပြက္ခဒိန်၊ စောဟားရေစီနဲ့ မန်းလင်းမြတ်ကျော်တို့ရဲ့ စာအုပ်စာတမ်းများမှာ ဖော်ပြထားတဲ့ စကောကရင် ၁၃-လပြက္ခဒိန်တို့ရဲ့ နှစ်ကြီး (ဝါထပ်နှစ်)တို့မှာပါရှိတဲ့ စကောကရင်လများ၊ ၎င်းတို့နဲ့ ယှဥ်တွဲဖော်ပြထားတဲ့ဗမာလများ နဲ့ အဆိုပါလများမှာ ပါရှိတဲ့ရက်များဟာ အောက်ပါအတိုင်း တူညီလျက်ရှိကြောင်းတွေ့ရှိရပါတယ်။

| စဥ်၊ အမည် | ရက် |
|---|---|
| ၀၁။ သလေ-တပို့တွဲ | ၂၉ |
| ၀၂။ ထေးခု-တပေါင်း | ၃၀ |
| ၀၃။ သွေးကော-တန်ခူး | ၂၉ |
| ၀၄။ လားခလီး-ကဆုန် | ၃၀ |
| ၀၅။ ဒေညား-နယုန် | ၃၀ |
| ၀၆။ လားဃ္ဃူး-ပထမဝါဆို | ၂၉ |
| ၀၇။ လားနှီး-ဒုတိယဝါဆို | ၃၀ |
| ၀၈။ လားဃို့-ဝါခေါင် | ၂၉ |
| ၀၉။ လားခု-တော်သလင်း | ၃၀ |
| ၁၀။ ဆိမူ-သီတင်းကျွတ် | ၂၉ |
| ၁၁။ ဆိဆာ-တန်ဆောင်မုန်း | ၃၀ |
| ၁၂။ လားနော-နတ်တော် | ၂၉ |
| ၁၃။ လားပလူ-ပြာသို | ၃၀ |
| | ၃၈၄ |

စောဟားရေစီနဲ့မန်းလင်းမြတ်ကျော်တို့ရဲ့စာအုပ်စာတမ်းများမှာဖော်ပြထားတဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်တို့ရဲ့ နှစ်ဝယ်(ရိုးရိုးနှစ်)တို့မှာပါရှိတဲ့ ပိုးကရင်လများ၊ ရင်းတို့နဲ့ယှဉ်တွဲဖော်ပြထားတဲ့ ဗမာလများနဲ့ အဆိုပါလများမှာပါရှိတဲ့ရက်များကတော့ အောက်ပါအတိုင်းဖြစ်ကြောင်းတွေ့ရှိရပါတယ်။

| စဉ်၊ အမည် | ရက် |
|---|---|
| ၀၁။ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို-တပို့တွဲ | ၂၉ |
| ၀၂ ။ ထိုင့်ခေါက်ဗိုး-ထိုင်ခုတ်ဗို-တပေါင်း | ၃၀ |
| ၀၃။ တဖန်း-တဖန့်-တန်ခူး | ၂၉ |
| ၀၄။ လာတာ-လားတား-ကဆုန်လဆန်း | ၁၅ |
| ၀၅။ လာယာ့-လားယာ-ကဆုန်လဆုတ် | ၁၅ |
| ၀၆။ လာယွူး-လားယွူ-နယုန် | ၂၉ |
| ၀၇။ လာနွီး-လားနွီ-ဝါဆို | ၃၀ |
| ၀၈။ လာယှိ-လားယှိ့-ဝါခေါင် | ၂၉ |
| ၀၉။ လာခေါက်-လားခုတ်-တော်သလင်း | ၃၀ |
| ၁၀။ ဆီးမူး-ဆီမု-သီတင်းကျွတ် | ၂၉ |
| ၁၁။ ကတောက်ဝေါ-ခတုတ်ဝေါ့-တန်ဆောင်မုန်း | ၃၀ |
| ၁၂ ။ လာနောင်း-လားနန်-နတ်တော် | ၂၉ |
| ၁၃။ လာလိန်-လားလိန်း-ပြာသို | ၃၀ |
| | ၃၅၄ |

စောဟားရေစီနဲ့မန်းလင်းမြတ်ကျော်တို့ရဲ့စာအုပ်စာတမ်းများမှာဖော်ပြထားတဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်တို့ရဲ့ နှစ်ကြီး(ဝါထပ်နှစ်)တို့မှာပါရှိတဲ့ ပိုးကရင်လများ၊ ၎င်းတို့နဲ့ယှဉ်တွဲဖော်ပြထားတဲ့ ဗမာလများနဲ့ အဆိုပါလများမှာပါရှိတဲ့ရက်များကတော့ အောက်ပါအတိုင်းဖြစ်ကြောင်းတွေ့ ရှိရပါတယ်။

..............................................................................

| စဉ်၊ အမည် | ရက် |
|---|---|
| ၀၁။ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို-တပို့တွဲ | ၂၉ |
| ၀၂ ။ ထိုင့်ခေါက်ဒိုး-ထိုင်ခုတ်ဒို-တပေါင်း | ၃၀ |
| ၀၃။ တဖန်း-တဖန့်-တန်ခူး | ၂၉ |
| ၀၄။ လာတာ-လားတား-ကဆုန် | ၃၀ |
| ၀၅။ လာယာ့-လားယာ-နယုန် | ၃၀ |
| ၀၆။ လာၡူး-လားၡူ-ပထမဝါဆို | ၂၉ |
| ၀၇။ လာနွီး-လားနွီ-ဒုတိယဝါဆို | ၃၀ |
| ၀၈။ လာၡီ-လားၡီ့-ဝါခေါင် | ၂၉ |
| ၀၉။ လာခေါက်-လားခုတ်-တော်သလင်း | ၃၀ |
| ၁၀။ ဆီးမူး-ဆီမု-သီတင်းကျွတ် | ၂၉ |
| ၁၁။ ကတောက်ဝေါ-ခတုတ်ဝေါ့-တန်ဆောင်မုန်း | ၃၀ |
| ၁၂ ။ လာနောင်း-လားနန်-နတ်တော် | ၂၉ |
| ၁၃။ လာလိန်-လားလိန်း-ပြာသို | ၃၀ |
| | ၃၈၄ |

..............................................................................

တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီက ရေးဆွဲပြုစုတဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ငယ် (ရိုးရိုးနှစ်)မှာပါရှိတဲ့ ပိုးကရင်လများ၊ ၎င်းတို့နဲ့ယှဉ်တွဲဖော်ပြထားတဲ့ ဗမာလများ နဲ့ အဆိုပါလများမှာပါရှိတဲ့ရက်များကတော့အောက်ပါအတိုင်းဖြစ်ပါတယ်။

.......................................................................

| စဥ်၊ အမည် | ရက် |
|---|---|
| ၀၁။ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို-တပို့တွဲလဆန်း | ၁၅ |
| ၀၂ ။ ထိုင့်ခေါက်ဒိုး-ထိုင်ခုတ်ဒို-တပို့တွဲလဆုတ် | ၁၄ |
| ၀၃။ တဖန်း-တဖန့်-တပေါင်း | ၃၀ |
| ၀၄။ လာတာ-လားတား-တန်ခူး | ၂၉ |
| ၀၅။ လာယာ့-လားယာ-ကဆုန် | ၃၀ |
| ၀၆။ လာယှူး-လားယှူ-နယုန် | ၂၉ |
| ၀၇။ လာန္ဒိး-လားန္ဒိ-ဝါဆို | ၃၀ |
| ၀၈။ လာယှိ-လားယှိ့-ဝါခေါင် | ၂၉ |
| ၀၉။ လာခေါက်-လားခုတ်-တော်သလင်း | ၃၀ |
| ၁၀။ ဆီးမူး-ဆီမု-သီတင်းကျွတ် | ၂၉ |
| ၁၁။ ကတောက်ဝေါ-ခတုတ်ဝေါ့-တန်ဆောင်မုန်း | ၃၀ |
| ၁၂ ။ လာနောင်း-လားနန်-နတ်တော် | ၂၉ |
| ၁၃။ လာလိန်-လားလိန်း-ပြာသို | ၃၀ |

.......................................................................

၃၅၄

.......................................................................

အထက်ဖော်ပြပါ တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီကရေးဆွဲပြုစုတဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ငယ်(ရိုးရိုးနှစ်)မှာ ၃၅၄-ရက် ပါရှိကြောင်းတွေ့ရှိရပါတယ်။

တိုင်းရင်းသားကရင်ရိုးရာ ပြက္ခဒိန်ကော်မတီက ရေးဆွဲပြုစုတဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ကြီး (ဝါထပ်နှစ်)မှာပါရှိတဲ့ ပိုးကရင်လများ၊ ၎င်းတို့နဲ့ယှဉ်တွဲ ဖော်ပြထားတဲ့ဗမာလများ နဲ့ အဆိုပါလများမှာပါရှိတဲ့ ရက်များကတော့အောက်ပါအတိုင်းဖြစ်ပါတယ်။

..............................................................................

| စဉ်၊ | အမည် | ရက် |
| --- | --- | --- |
| ၀၁။ | ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို-တပို့တွဲ | ၂၉ |
| ၀၂။ | ထိုင့်ခေါက်ဒိုး-ထိုင်ခုတ်ဒို-တပေါင်း | ၃၀ |
| ၀၃။ | တဖန်း-တဖန့်-တန်ခူး | ၂၉ |
| ၀၄။ | လာတာ-လားတား-ကဆုန် | ၃၀ |
| ၀၅။ | လာယာ့-လားယာ-နယုန် | ၂၉ |
| ၀၆။ | လာဃ္ဃူး-လားဃ္ဃူ-ပထမဝါဆို | ၃၀ |
| ၀၇။ | လာနို့း-လားနို့-ဒုတိယဝါဆို | ၂၉ |
| ၀၈။ | လာဃ္ဃို-လားဃ္ဃို့-ဝါခေါင် | ၃၀ |
| ၀၉။ | လာခေါက်-လားခုတ်-တော်သလင်း | ၂၉ |
| ၁၀။ | ဆီးမူး-ဆီမု-သီတင်းကျွတ် | ၃၀ |
| ၁၁။ | ကတောက်ဝေါ-ခတုတ်ဝေါ့-တန်ဆောင်မုန်း | ၂၉ |
| ၁၂။ | လာနောင်း-လားနန်-နတ်တော် | ၃၀ |
| ၁၃။ | လာလိန်-လားလိန်း-ပြာသို | ၂၉ |

..............................................................................

၃၈၃

..............................................................................

အထက်ဖော်ပြပါ တိုင်းရင်းသားကရင်ရိုးရာ ပြက္ခဒိန်ကော်မတီကရေးဆွဲပြုစုတဲ့ ပိုးကရင် ၁၃-လ ပြက္ခဒိန်ရဲ့နှစ်ကြီး(ဝါထပ်နှစ်)မှာ ၃၈၃-ရက်ပါရှိကြောင်းတွေ့ရှိရပါတယ်။

ဆက်လက်ပြီး ဖာပွန်တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ စကောကရင်လူမျိုးတို့ရဲ့သစ်သားပြက္ခဒိန်နဲ့ ပတ်သက်ပြီး ပဒိုစောဟန်တာသာမွေးရဲ့၂၇၀၄-ခုနှစ် ကရင်နှစ်သစ်မင်္ဂလာမိန့်ခွန်း ထုတ်ပြန်ချက်မှာ တောင်ပေါ်ဒေသနေကရင်လူမျိုးများတွင် သစ်သားပြားပေါ်၌အပေါက်ဖောက်၍ နှစ်၊ လ၊ ရက် များကို ရေတွက်မှတ်သားသော သစ်သား ၁၃-ပြားပြက္ခဒိန်ရှိသည် လို့ ဖော်ပြထားပါတယ်။

စောဟားရေစီ ရေးတဲ့ ကရင်ရိုးရာနှစ်သစ်မင်္ဂလာပွဲတော်စာအုပ်မှာလည်း မူးဆိုးကော်ကဆာ ဖော်ပြသော သစ်သားပြားပြက္ခဒိန်တွင်အပေါက်ငယ်သုံးတန်းပြုလုပ်ထားပြီး အပေါ်ဆုံးတန်းတွင် ၁၃-ပေါက်၊ အလယ်တန်းတွင် ၁၅-ပေါက်၊ အောက်ဆုံးတန်းတွင် ၇-ပေါက် ဖြစ်လေသည်။ အဆိုပါအပေါက်ငယ်များကိုစို့များဖြင့်ထိုး၍ ရက်နှင့်လ များကိုပြသွားရလေသည်။ အပေါ်ဆုံး ၁၃-ပေါက်မှာ ကရင်လ ၁၃-လ၊ အလယ် ၁၅-ပေါက်မှာ လဆန်းနှင့်လဆုတ် ကိုဖော်ပြပြီး အောက်ဆုံး ၇-ပေါက်မှာ ရက်သတ္တ ၇-ရက်ကို ဖော်ပြခြင်းဖြစ်လေသည် လို့ ရေးသားဖော်ပြထားပါတယ်။

ဒါပေမယ့် မန်းသိန်းရွှေ(ခန့်သူလိုင်)ရေးတဲ့ကရင်နှစ်သစ်နှင့်ခေတ်ရေစီး စာအုပ်မှာတော့ ပြောင်းမြစရိုင်အိမ်မဲမြို့နယ် တကူဆိပ်ရွာဇာတိဖြစ်၍ ကရင်ပြည်နယ် တောင်ပေါ်ဒေသရှိ ဖာပွန်မြို့နယ်တွင် ကျောင်းဆရာအဖြစ်နှစ်ပေါင်းများစွာအလုပ်လုပ်ခဲ့ဖူးသော ဖူးယာနှင်းဆိုသူက ဖာပွန်မြို့နယ်တွင်သစ်သား ၁၂-ပြားပြက္ခဒိန်ကို အသုံးပြုကြောင်း၊ ဖာပွန်မြို့နယ်တွင် သစ်သား၁၂-ပြားပြက္ခဒိန်မှတစ်ပါးအခြားပြက္ခဒိန်မရှိကြောင်းလို့ရေးသားဖော်ပြထားပြန်ပါတယ်။

အထက်ပါ ရေးသားဖော်ပြချက်များဟာ ဖာပွန် တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ စကောကရင်လူမျိုးတို့ အသုံးပြုတဲ့ပြက္ခဒိန်ဟာ သစ်သား ၁၂-ပြားပြက္ခဒိန်လား၊ သစ်သား ၁၃-ပြားပြက္ခဒိန်လားဆိုတာကို အတည်ပြုရဦးမယ့်အခြေအနေတစ်ရပ်သို့ဦးတည်သွားစေခဲ့ပါတယ်။

ဖော်ပြခဲ့သလို ပဒိုစောဟန်တာသာမွှေးဟာ ဖာပွန် တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ စကောကရင်လူမျိုးတို့အသုံးပြုတဲ့သစ်သား၁၃-ပြားပြက္ခဒိန်ပါလများနဲ့ပတ်သက်တဲ့ဖူးဆယ်လယ်ပါရဲ့ရှင်းလင်းတင်ပြချက်ကို လက်ခံခဲ့ပြီးတဲ့နောက်တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီကိုဖွဲ့စည်းခဲ့ပြီး စကောကရင် နဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်တို့ကိုရေးဆွဲပြုစုထုတ်ဝေစေခဲ့ပါတယ်။

တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီက စကောကရင် ၁၃-ပြက္ခဒိန်ရဲ့ အမှတ်စဥ် (၄)နဲ့(၅)တို့မှာ တည်ရှိတဲ့လများဖြစ်ကြတဲ့ လားခလီး နဲ့ ဒေညား တို့ကို ကဆုန်လနဲ့ထပ်တူညီအောင်ရေးဆွဲထားသလို ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ အမှတ်စဥ်(၁) နဲ့ (၂)တို့မှာ တည်ရှိတဲ့ လများဖြစ်ကြတဲ့ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို နဲ့ ထိုင့်ခေါက်ဒိုး-ထိုင်ခုတ်ဒို တို့ကို တပို့တွဲလနဲ့ထပ်တူညီအောင် ရေးဆွဲထားတဲ့ကိစ္စနဲ့ပတ်သက်ပြီး လွှတ်တော်ဥက္ကဋ္ဌဟောင်း မန်းဘဆိုင်က- မြန်မာ ၁၂-လရှိရက်သည် ကရင် ၁၂-လရှိရက် ၃၅၄-ရက်နှင့်ကိုက်ညီ၍ မြန်မာဝါထပ်နှစ်တွင် ၁၃-လရှိ၍ ကရင်နှစ်ကြီးတွင်လည်း ၁၃-လရှိပြီး ၃၈၄-ရက်ရှိ၍ ကိုက်ညီကြောင်း၊ ကော်ကဆာသည် ကဆုန်လဆန်း ၁၅-ရက်ကို တစ်လလုပ်ထားပြီး လဆုတ် ၁၅-ရက်ကို တစ်လလုပ်ထားခြင်းဖြင့် တစ်နှစ်တွင် ၁၃-လဖြစ်အောင်ဖန်တီးထားသည်လို့ ၁၅-၁-၇၁ ရက်ထုတ်အိုးဝေဂျာနယ်မှာ ရေးသားဖော်ပြခဲ့ပါတယ်။

အဆိုပါ ရေးသားဖော်ပြချက်နှင့်ပတ်သက်ပြီး ပဒိုစောဟန်တာသာမွေးက- ကရင်ပြက္ခဒိန်တွင် ၁၃-လ ဖြစ်အောင်ဖန်တီးထားသည်ဟုဆိုရာ၌ အားလုံးသော ပြက္ခဒိန်တီထွင်သူများသည်ရက်များကိုဖန်တီးထားသည် ဟုဆိုနိုင်ကြောင်း၊ အနောက်နိုင်ငံသားတို့၏လများတွင် ၂၈-ရက်က ၁-လ၊ ၃၀-ရက်က ၄-လ၊ ၃၁-ရက်က ၇-လ ရှိနေခြင်းသည် တစ်နှစ်တွင် ၃၆၅-ရက် ပြည့်ရန် ဖန်တီးထားခြင်းဖြစ်ကြောင်း၊ အီသီအိုပီးယားပြည်တွင် တစ်နှစ်ကို ၁၃-လ ထားရှိပြီး ၎င်းတို့၏လများကို ၃၀-ရက်က ၁၂-လ၊ ၅-ရက်က ၁-လ၊ စုစုပေါင်း ၃၆၅-ရက် အဖြစ် နှစ်ကိုဖန်တီးယူထားခြင်းဖြစ်ကြောင်း၊ မြန်မာလများကို တစ်နှစ်တွင် ၃၅၄-ရက်ဖြင့် ၁၂-လ ထားရှိသော်လည်း ရာသီခွင် သို့မဟုတ် ဆိုလာနှစ် ၃၆၅-ရက်နှင့်ကိုက်ညီရန် အတွက် ဝါထပ်ပေးသော ဝါထပ်နှစ် ၁၃-လကို ဖန်တီး ရယူပြန်ပါကြောင်း၊ ကရင်တို့ကလည်း မိမိတို့ကရင်နည်း ကရင်ဟန်ဖြင့်မိမိတို့၏ပျဉ်ပြားပြက္ခဒိန်ကစ၍ တည်ထွင် လာကြသည်ကိုတွေ့ရှိရကြောင်းလို့ ၁၅-၂-၇၁ ရက်ထုတ် အိုးဝေဂျာနယ်မှာရေးသားဖော်ပြခဲ့ပါတယ်။

ဖာပွန် တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ စကော ကရင်လူမျိုးတို့အသုံးပြုတဲ့ သစ်သား၁၃-ပြားပြက္ခဒိန်ကို အကြောင်းပြုပြီး စတင်ဖြစ်တည်လာခဲ့တဲ့ ကရင် နှစ်သစ်ကူးနေ့ကွဲပြားနေတဲ့ကိစ္စကို အဖြေရှာနိုင်ဖို့ အတွက် ကရင်အမျိုးသားခေါင်းဆောင်များက ကြိမ်ဖန် များစွာတွေ့ဆုံညှိနှိုင်းခဲ့ကြပေမယ့်လည်း ယနေ့အထိ အောင်မြင်မှုမရရှိသေးပါဘူး။ ဒါကြောင့် ကျွန်ုပ်တို့ရဲ့ ဘိုးဘွားမိဘများရဲ့ မပြီးပြတ်သေးတဲ့ အမျိုးသားရေး တာဝန်ကိုပြီးပြတ်အောင်ဆက်လက်ထမ်းဆောင်ဖို့ယနေ့ ကရင်အမျိုးသားတိုင်းမှာတာဝန်ရှိပါတယ်။

ကရင်ပြက္ခဒိန်များဟာ စန္ဒြမာသ-လူနာပြက္ခဒိန်များ ဖြစ်ကြတဲ့အတွက် နှစ်ငယ်(ရိုးရိုးနှစ်)မှာ ၃၅၄-ရက် နဲ့ နှစ်ကြီး(ဝါထပ်နှစ်)မှာ ၃၈၄-ရက် ပါရှိရမှာဖြစ်ပါတယ်။

ဖူးဆယ်လယ်ပါရဲ့ စကောကရင်သစ်သား ၁၃-ပြား ပြက္ခဒိန်၊ တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီက ပြုစုခဲ့တဲ့ စကောကရင် ၁၃-လပြက္ခဒိန်၊ စောဟားရေစီနဲ့ မန်းလင်းမြတ်ကျော်တို့ရဲ့ စာအုပ်စာတမ်းများမှာ ဖော်ပြထားတဲ့ စကောကရင် နဲ့ ပိုးကရင် ၁၃-လပြက္ခဒိန် တို့ရဲ့ နှစ်ငယ်(ရိုးရိုးနှစ်)မှာ ၃၅၄-ရက် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) တို့မှာ ၃၈၄-ရက် ပါရှိတဲ့အတွက် အဆိုပါပြက္ခဒိန်များကို စန္ဒြမာသ-လူနာပြက္ခဒိန်ပါ စည်းမျဉ်းစည်းကမ်းနဲ့ ကိုက်ညီတဲ့ပြက္ခဒိန်များလို့ဆိုရမှာဖြစ်ပါတယ်။

တိုင်းရင်းသားကရင်ရိုးရာပြက္ခဒိန်ကော်မတီက ရေးဆွဲပြုစုခဲ့တဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့ နှစ်ငယ် (ရိုးရိုးနှစ်)မှာ ၃၅၄-ရက် ပါရှိသော်လည်း နှစ်ကြီး (ဝါထပ်နှစ်)မှာ ၃၈၃-ရက် သာပါရှိတဲ့အတွက် အဆိုပါ ပြက္ခဒိန်ကို စန္ဒြမာသ-လူနာပြက္ခဒိန်ပါ စည်းမျဉ်း စည်းကမ်းနဲ့ကိုက်ညီမှုမရှိတဲ့ပြက္ခဒိန် လို့ ဆိုရမှာဖြစ်ပါ တယ်။

လူမျိုးတစ်မျိုးကို စကား၊စာပေ၊ဝတ်စားဆင်ယင်မှု၊ ဓလေ့ထုံးတမ်း၊အနုသုခုမ စတဲ့ အင်္ဂါရပ်များနဲ့ ဖွဲ့စည်း တည်ဆောက်ထားတဲ့အတွက် ယနေ့ ကရင်လူမျိုးများ အထူးသဖြင့် နောင်တစ်ချိန်မှာ ကရင့်အမျိုးသားရေး ဆိုင်ရာ သမိုင်းပေးတာဝန်များကို မလွဲမသွေ လွှဲပြောင်း ရယူထမ်းဆောင်သွားကြရမယ့် မျိုးဆက်သစ် ကရင် လူငယ်လေးများကို မိမိတို့ရဲ့ရိုးရာဓလေ့ထုံးတမ်းစဉ်လာ များကိုကောင်းစွာသိရှိနားလည်စေချင်တဲ့စေတနာနဲ့ ဤ စာစုကိုရေးသားရခြင်းဖြစ်ပါကြောင်း။

## ပိုးကရင်ပြက္ခဒိန်၏နဝမမြောက်လဖြစ်သည့် ဆီးမူး-ဆီမု နှင့်သက်ဆိုင်သောအဓိပ္ပါယ်ဖွင့်ဆိုချက်များ

ပိုးကရင်ပြက္ခဒိန်ရဲ့ နဝမမြောက်လဖြစ်တဲ့ ဆီးမူး-ဆီမု ဆိုတဲ့လနဲ့ပတ်သက်ပြီး ယနေ့အထိ သိရှိထားတဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်များကတော့ အောက်ပါအတိုင်း ဖြစ်ပါတယ်။

မန်းလင်းမြတ်ကျော်ရေးသားပြုစုတဲ့ကရင်လူမျိုး မူလသမိုင်း နှင့် ရိုးရာပြက္ခဒိန်တင်ပြချက်စာတမ်းမှာ ဆီးမူး-ဆီမု နဲ့ပတ်သက်ပြီး- ဆီး-ဆီ ၏အဓိပ္ပါယ်မှာ ၁၀ ဂဏာန်းဖြစ်၏။ ဆီးမူး-ဆီမု သည် ဆယ်လမြောက်သောလကိုဖော်ညွှန်းသည်လို့ ဖော်ပြထားပါတယ်။

ဆီးမူး-ဆီမု ဆိုတဲ့လဟာ ပိုးကရင် ၁၃-လ ပြက္ခဒိန်ရဲ့အမှတ်စဥ်(၁၀)မှာတည်ရှိပေမယ့် ပိုးကရင် ၁၂-လပြက္ခဒိန်ရဲ့ အမှတ်စဥ်(၁၀)မှာမတည်ရှိပါ။

အဆိုပါဖော်ပြချက်မှာ ဆီး-ဆီ ဆိုတဲ့ ပိုးကရင် စကားလုံးရဲ့ အဓိပ္ပါယ်ကို ဖွင့်ဆိုထားပေမယ့် မူး-မု ဆိုတဲ့ ပိုးကရင်စကားလုံးရဲ့အဓိပ္ပါယ်ကို ဖွင့်ဆိုထားခြင်း မရှိသလို ဆီးမူး-ဆီမု ဆိုတဲ့ ပိုးကရင်စကားလုံးနဲ့ သက်ဆိုင်တဲ့အဓိပ္ပါယ်ကိုလည်း ဂဃနဏ ပြည့်ပြည့်စုံစုံ ဖွင့်ဆိုရှင်းလင်းဖော်ပြထားခြင်းမရှိပါ။

အဆိုပါဖော်ပြချက်ဟာ ကရင်လများရဲ့ အမည်ကို အထက်မိုးကောင်းကင်မှာလှည့်ပတ်သွားလာ နေကြတဲ့ နေလနက္ခတ်တာရာ၊ မြေပြင်ပေါ်မှာဖူးပွင့်လေ့ ရှိတဲ့ သစ်ပင်ပန်းမန်၊ ကရင်လူမျိုးတို့ရဲ့ ရိုးရာဓလေ့ ထုံးတမ်းစဥ်လာအပေါ်အခြေခံပြီး မှည့်ခေါ်ခဲ့ကြတယ် ဆိုတဲ့ ကရင်သုတေသီပညာရှင်ကြီးများရဲ့ မိန့်ဆိုချက်နဲ့ လည်းကိုက်ညီမှုမရှိပါ။

ဒါကြောင့် ဆီး-ဆီ ၏အဓိပ္ပါယ်မှာ ၁၀ ဂဏန်း ဖြစ်၏။ ဆီးမူး-ဆီမု သည်ဆယ်လမြောက်သောလကို ဖော်ညွှန်းသည် ဆိုတဲ့ဖော်ပြချက်ဟာ ဆီးမူး-ဆီမု ဆိုတဲ့ လနဲ့သက်ဆိုင်တဲ့ခိုင်လုံပြီးပြည့်စုံတဲ့အဓိပ္ပါယ်ဖွင့်ဆိုချက် လို့မဆိုနိုင်ပါ။

ဆက်လက်ပြီး ပန်းတနော်၊အိမ်မဲ၊ကျောင်းကုန်း၊ ကျုံပျော် မြို့နယ်တို့ပါဝင်တဲ့ ကရင်စာပေမြှင့်တင်ရေး ကော်မတီကထုတ်ဝေတဲ့ ၂၇၅၅-ခုနှစ်ထုတ် သူလိုင်ဖော် (ဍုၢလဲၢ့ဖီၢ)မဂ္ဂဇင်းမှာ ဆီးမူး-ဆီမု နဲ့ပတ်သက်ပြီး- ပိုးကရင်လူမျိုးတို့ရဲ့ ဆိတ်မု(ဆံဒမု) ဆိုတဲ့ ယခင်အခေါ် အဝေါ်ဟာ ယခုအခါ ဆီမု(ဆံၢမု)ဆိုတဲ့ အခေါ်အဝေါ်သို့ ပြောင်းလဲမည်တွင်လာခဲ့တယ် လို့ဖော်ပြထားပါတယ်။

သေးငယ်သည် ဆိုတဲ့အဓိပ္ပါယ်ကို ဖော်ညွှန်း လိုတဲ့အခါ ပိုးကရင်(အရှေ့)လူမျိုးတို့က ပေ့-ပေ(ပ့ၢ) ဆိုတဲ့စကားလုံးကိုအသုံးပြုပြီး ပိုးကရင်အနောက်လူမျိုး တို့က ဆိတ်(ဆံဒ) ဆိုတဲ့စကားလုံးကို အသုံးပြုပါတယ်။ ပိုးကရင်(အရှေ့)လူမျိုး နဲ့ ပိုးကရင်(အနောက်)လူမျိုး တို့ဟာနေထိုင်ရာဒေသကွဲပြားမှုကြောင့် ၎င်းတို့ရဲ့စကား သံတွေဟာ အနည်းငယ်ကွဲပြားကြပေမယ့် တစ်ခုတည်း သောအမိအနွယ်မှဆင်းသက်လာခဲ့ကြတဲ့သူများ ဖြစ်တဲ့ အတွက် ပိုးကရင်လနဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက် ဟာ ၎င်းတို့နှစ်မျိုးစလုံးနဲ့ဆီလျော်မှုရှိရမှာဖြစ်ပါတယ်။ ဒါကြောင့် ပိုးကရင်လူမျိုးတို့ရဲ့ ဆိတ်မု(ဆံဒမု) ဆိုတဲ့ ယခင် အခေါ်အဝေါ်ဟာ ယခုအခါ ဆီမု(ဆံၢမု) ဆိုတဲ့ အခေါ်အဝေါ်သို့ ပြောင်းလဲမည်တွင်လာခဲ့တယ် ဆိုတဲ့ ဖော်ပြချက်ဟာ ပိုးကရင်(အနောက်) လူမျိုးတို့အတွက် ဆီလျော်မှုရှိပေမယ့် ပိုးကရင်(အရှေ့)လူမျိုးတို့အတွက် ဆီလျော်မှုမရှိပါ။

ပိုးကရင်ပြက္ခဒိန်ရဲ့ နဝမမြောက်လကိုပိုးကရင်လို ဆီးမူး-ဆီမု လို့ခေါ်ပါတယ်။ ဆဲ-ဆယ်(ဆဲ၁)ဆိုတဲ့ ပိုးကရင်စကားလုံးဟာဗမာလို ပြသည် လို့အဓိပ္ပါယ်ရပြီး မူး-မု(မု)ဆိုတဲ့ ပိုးကရင်စကားလုံးက ဗမာလို နေ လို့ အဓိပ္ပါယ်ရပါတယ်။ မိုးလယ်ကာလ ဝါဆို၊ဝါခေါင်လ တွေမှာမိုးသည်းထန်စွာရွာသွန်းလေ့ရှိပြီးမိုးကောင်းကင် တစ်ခွင်တစ်ပြင်လုံးမှာ မိုးတိမ်တွေနဲ့ပြည့်နှက်နေလေ့ရှိ တဲ့အတွက် ၎င်းလတွေမှာ လူတွေဟာ မိုးကောင်းကင်က နေကိုမမြင်ကြရပါဘူး။ မိုးနှောင်းကာလ ဆီးမူး-ဆီမု (တော်သလင်းလ)မှာတော့မိုးကောင်းကင်မှာမိုးတိမ်တွေ လျော့နည်းသွားတဲ့အတွက် ၎င်းလမှာလူတွေဟာနေကို ပြန်မြင်ကြရတဲ့အတွက် ပိုးကရင်လူမျိုးတို့က ၎င်းလကို နေ(ကိုယ်ထင်)ပြတဲ့လ လို့အဓိပ္ပါယ်ရတဲ့ ဆဲမူး-ဆယ်မု (ဆဲ၁မု)လို့ ခေါ်ဝေါ်ခဲ့ကြပါတယ်။ အဆိုပါ ဆဲမူး-ဆယ်မု (ဆဲ၁မု)ဆိုတဲ့ ယခင်အခေါ်အဝေါ်ဟာ ယခုအခါ ဆီးမူး-ဆီမု(ဆံ၁မု)ဆိုတဲ့ အခေါ်အဝေါ်သို့ ပြောင်းလဲမည်တွင် လာခဲ့တယ်လို့ယူဆရပါတယ်။

ဗမာလူမျိုးတို့ဟာ ဗမာ့ရိုးရာပြက္ခဒိန်မှာပါရှိတဲ့ ဗမာလအားလုံးနဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက် အသီးသီးကိုလည်းကောင်း၊ စကောကရင်လူမျိုးတို့ဟာ စကောကရင်ပြက္ခဒိန်မှာပါရှိတဲ့စကောကရင်လအားလုံး နဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်အသီးသီးကို လည်းကောင်းရေးသားဖော်ပြထားနိုင်ခဲ့ကြသလို မိမိတို့ ပိုးကရင်လူမျိုးတို့ကလည်း ၎င်းတို့နည်းတူ ပိုးကရင် ပြက္ခဒိန်မှာပါရှိတဲ့ ပိုးကရင်လအားလုံးနဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်အသီးသီးကို ရေးသားဖော်ပြထား နိုင်အောင် ကြိုးပမ်းဆောင်ရွက်သွားကြဖို့ တာဝန်ရှိပါ ကြောင်းတင်ပြအပ်ပါတယ်။

## ပိုးကရင်ပြက္ခဒိန်၏ဆဋ္ဌမမြောက်လဖြစ်သည့် လာနှီး-လားနှီ(လဧန္ဓါ)၏အဓိပ္ပါယ်ဖွင့်ဆိုချက်ကို မိန့်ကြားပေးကြပါရန်

ပိုးကရင်လူမျိုးတို့ဟာ ပိုးကရင် နှစ်၊လ၊ရက် တို့ပါရှိတဲ့ ပိုးကရင်ပြက္ခဒိန်ကို ရှေးနှစ်ပေါင်းများစွာကတည်းက အသုံးပြုလာခဲ့ကြပါတယ်။ မွန်၊ဗမာ လူမျိုးတို့နဲ့ ကာလကြာရှည်စွာ အတူယှဉ်တွဲပြီး နေထိုင်လာခဲ့ကြတဲ့အတွက် ပိုးကရင်ပြက္ခဒိန်ဟာ မွန်၊ဗမာ ပြက္ခဒိန်တို့နဲ့ ဆက်နွယ်လျက်ရှိပါတယ်။ ကရင်၊မွန် နဲ့ ဗမာလူမျိုးတို့ဟာ မြန်မာနိုင်ငံသို့ ခရစ်ယာန်ဘာသာရောက်မလာမီ နှစ်ပေါင်းများစွာကတည်းကစတင်ပြီး ဗုဒ္ဓဘာသာကိုအတူတကွ လက်ခံယုံကြည်လာခဲ့ကြတဲ့အတွက် ကရင်၊မွန် နဲ့ ဗမာ ပြက္ခဒိန်တို့မှာ ဗုဒ္ဓဘာသာနဲ့သက်ဆိုင်တဲ့ အငွေ့အသက်များကိုတွေ့မြင်ခံစားကြရမှာဖြစ်ပါတယ်။

ရှေးအခါက ဗမာလူမျိုးတို့ဟာတပေါင်းလမှအစပြုပြီး တပို့တွဲလမှာကုန်ဆုံးတဲ့အောက်ပါပြက္ခဒိန်ကိုအသုံးပြုခဲ့ကြပါတယ်။

| | | |
|---|---|---|
| ၁။တပေါင်း | ၂။တန်ခူး | ၃။ကဆုန် |
| ၄။နယုန် | ၅။ဝါဆို | ၆။ဝါခေါင် |
| ၇။တော်သလင်း | ၈။သီတင်းကျွတ် | ၉။တန်ဆောင်မုန်း |
| ၁၀။နတ်တော် | ၁၁။ပြာသို | ၁၂။တပို့တွဲ |

အကြောင်းကတော့ လူ၊နေ၊လ၊နက္ခတ်၊တာရာ စတဲ့ အရာအားလုံးဟာ တပေါင်းလပြည့်နေ့မှာ စတင်ဖြစ်ပေါ်ခဲ့တယ်လို့ ဗုဒ္ဓဘာသာရေးဆိုင်ရာ ကမ္ဘာဦးကျမ်းမှာ ဖော်ပြထားခြင်းကြောင့်ဖြစ်ပါတယ်။

ထိုနည်းတူစွာ ရှေးအခါက ပိုးကရင်လူမျိုးတို့ဟာ ဗမာလူမျိုးတို့နည်းတူ တပေါင်းလမှအစပြုပြီးတပို့တွဲလမှာကုန်ဆုံးတဲ့ပိုးကရင်ပြက္ခဒိန်ကိုအသုံးပြုခဲ့ကြပါတယ်။ သမိန်မုပလန်း(၁၆၂၈မှ၁၇၀၉)ရေးတဲ့ ကရင်မဟာဝုဒ္ဓမေ့ ရွှေစာငွေစာ စာအုပ်မှာရောဝတီမြစ်ဝကျွန်းပေါ်ဒေသမှာ နေထိုင်ကြတဲ့ ပိုးကရင်လူမျိုးတို့အသုံးပြုခဲ့တဲ့ ပိုးကရင် ပြက္ခဒိန်တစ်မျိုးကို အောက်ပါအတိုင်း ရေးသားဖော်ပြထားပါတယ်။

၁။တဖန့်(တပေါင်း)
၂။အတား(တန်ခူး)
၃။လားယာ(ကဆုန်)
၄။လားသူ့(နယုန်)
၅။ဝေါ့ဆို(ဝါဆို)
၆။ဝေါ့ခိုင်(ဝါခေါင်)
၇။တောသတ်လား(တော်သလင်း)
၈။ဆီမု(သီတင်းကျွတ်)
၉။ခိုင်ထုတ်ဝေါ့(တန်ဆောင်မုန်း)
၁၀။လားနှာ(နတ်တော်)
၁၁။လားဖလု(ပြာသို)
၁၂။ထိုင်ခုတ်(တပို့တွဲ)

ယခုအခါမှာ ဗမာလူမျိုးတို့ဟာ တန်ခူးလမှာ ကျရောက်တဲ့ ဗမာနှစ်သစ်ကူးနေ့ကို အကြောင်းပြုပြီး တန်ခူးလမှအစပြုပြီး တပေါင်းလမှာကုန်ဆုံးတဲ့ အောက်ပါပြက္ခဒိန်ကို ပြောင်းလဲအသုံးပြုလျက်ရှိပါတယ်။

၁။ တန်ခူး ၂။ ကဆုန် ၃။ နယုန်
၄။ ဝါဆို ၅။ ဝါခေါင် ၆။ တော်သလင်း
၇။ သီတင်းကျွတ် ၈။ တန်ဆောင်မုန်း ၉။ နတ်တော်
၁၀။ ပြာသို ၁၁။ တပို့တွဲ ၁၂။ တပေါင်း

ထိုနည်းတူစွာ ပိုးကရင်လူမျိုးတို့ဟာ ဗမာလူမျိုးတို့နည်းတူ တန်ခူးလမှအစပြုပြီးတပေါင်းလမှာကုန်ဆုံးတဲ့ ပိုးကရင်ပြက္ခဒိန်ကို အသုံးပြုခဲ့ကြပါတယ်။ ဧရာဝတီမြစ်ဝကျွန်းပေါ်ဒေသမှာနေထိုင်တဲ့ပိုးကရင်လူမျိုးတို့ဟာ ဗမာလူမျိုးတို့နည်းတူ တန်ခူးလမှအစပြုပြီးတပေါင်းလမှာကုန်ဆုံးတဲ့ ပိုးကရင်ပြက္ခဒိန်ကိုအသုံးပြုခဲ့တယ်ဆိုတဲ့ အထောက်အထားမျိုးကို မတွေ့ရှိရသေးပေမယ့်လည်း မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီက ထုတ်ဝေတဲ့ မြန်မာ့တိုင်းရင်းသားလူမျိုးများဆိုင်ရာအကြောင်းအရာများကို ရေးသားဖော်ပြထားတဲ့ ကရင် ဆိုတဲ့စာအုပ်ထဲမှာတော့ မွန်ပြည်နယ်၊ ကရင်ပြည်နယ် နဲ့ တနင်္သာရီတိုင်းတို့မှာ နေထိုင်ကြတဲ့ ပိုးကရင်လူမျိုးတို့ဟာ ဗမာလူမျိုးတို့နည်းတူ တန်ခူးလမှအစပြုပြီး တပေါင်းလမှာကုန်ဆုံးတဲ့ ပိုးကရင်ပြက္ခဒိန်ကိုအသုံးပြုကြောင်း အောက်ပါအတိုင်း ဖော်ပြထားပါတယ်။

၁။ လာတာ(တန်ခူး)
၂။ လာယာ့(ကဆုန်)
၃။ လာနှီး(နယုန်)
၄။ လာဃို့(ဝါဆို)
၅။ လာခေါက်(ဝါခေါင်)
၆။ ဆီးမူး(တော်သလင်း)
၇။ ကတောက်ဝေါ(သီတင်းကျွတ်)
၈။ လာနောင့်(တန်ဆောင်မုန်း)
၉။ လာလိန်(နတ်တော်)
၁၀။ ထိုင့်ခေါက်ဖိုး(ပြာသို)
၁၁။ ထိုင့်ခေါက်ဒိုး(တပို့တွဲ)
၁၂။ တဖန်း(တပေါင်း)

ယခုအခါမှာတော့ မြန်မာနိုင်ငံမှာနေထိုင်ကြတဲ့ ပိုးကရင်လူမျိုးအများစုဟာပြာသိုလဆန်း(၁)ရက်နေ့မှာ ကျရောက်တဲ့ ကရင်နှစ်သစ်ကူးနေ့ကို အကြောင်းပြုပြီး ပြာသိုလမှအစပြုပြီး နတ်တော်လမှာကုန်ဆုံးတဲ့ အောက်ပါပြက္ခဒိန်ကိုအသုံးပြုလျက်ရှိပါတယ်။

၁။ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို(ပြာသို)
၂။ ထိုင့်ခေါက်ဒိုး-ထိုင်ခုတ်ဒို(တပို့တွဲ)
၃။ တဖန်း-တဖန့်(တပေါင်း)
၄။ လာတာ-လားတား(တန်ခူး)
၅။ လာယာ့-လားယာ(ကဆုန်)
၆။ လာနွီး-လားနွီ(နယုန်)
၇။ လာဃို-လားဃို့(ဝါဆို)
၈။ လာခေါက်-လားခုတ်(ဝါခေါင်)
၉။ ဆီးမူး-ဆီမု(တော်သလင်း)
၁၀။ ကတောက်ဝေါ-ခတုတ်ဝေါ့(သီတင်းကျွတ်)
၁၁။ လာနော့င်-လားနုန်(တန်ဆောင်မုန်း)
၁၂။ လာလိန်-လားလိန်း(နတ်တော်)

၁၉၆၄-ခုနှစ် နောက်ပိုင်းမှာ ပဒိုစောဟန်တာသာမွေး ခေါင်းဆောင်တဲ့ ကရင်တော်လှန်ရေးကောင်စီက ကြီးမှူး ဖွဲ့စည်းပေးခဲ့တဲ့ တိုင်းရင်းသား ကရင်ရိုးရာပြက္ခဒိန် ကော်မတီက ဖူးဆယ်လယ်ပါရဲ့စကောကရင် သစ်သား ၁၃-ပြားပြက္ခဒိန်ကို အခြေခံတဲ့ စကောကရင် ၁၃-လ ပြက္ခဒိန် နဲ့ ပိုးကရင် ၁၃-လပြက္ခဒိန် တို့ကို ပြုစုထုတ်ဝေ ခဲ့ပါတယ်။ အဲဒီအချိန်ကစပြီး မြန်မာနိုင်ငံအတွင်းမှာ နေထိုင်ကြတဲ့ ကရင်လူမျိုးတို့ဟာ ကရင်ပြက္ခဒိန်ပါ နေ့၊ လ၊ရက် များနဲ့ပတ်သက်ပြီးအငြင်းပွားလာခဲ့ကြပါတယ်။

ပိုးကရင်ပြက္ခဒိန်ရဲ့ အမှတ်စဉ်(၆)မှာတည်ရှိတဲ့ လာနွီး-လားနွီ နဲ့ အမှတ်စဉ်(၇)မှာတည်ရှိတဲ့ လာဃို-လားဃို့ တို့ဟာ ၎င်းတို့ရဲ့အမည်နဲ့ကိုက်ညီတဲ့ အမှတ်စဉ် (၇) နဲ့ အမှတ်စဉ်(၈)တို့မှာတည်ရှိခြင်းမရှိဘဲ ၎င်းတို့ရဲ့ အမည်နဲ့ကိုက်ညီမှုမရှိတဲ့ အမှတ်စဉ်(၆)နဲ့အမှတ်စဉ်(၇) တို့မှာလွဲမှားစွာတည်ရှိနေတဲ့အတွက်အဆိုပါပြက္ခဒိန်ဟာ မှားယွင်းတဲ့ပြက္ခဒိန်ဖြစ်တယ်လို့ တိုင်းရင်းသားကရင် ရိုးရာပြက္ခဒိန်ကော်မတီကပြုစုထုတ်ဝေခဲ့တဲ့ ပိုးကရင် ၁၃-လပြက္ခဒိန်ကိုလက်ခံအသုံးပြုသူများက ယူဆခဲ့ကြ ပါတယ်။

အထက်ပါယူဆချက်ဟာကရင်ပြက္ခဒိန်မှာပါရှိတဲ့ ကရင်လများရဲ့အမည်ကို၎င်းတို့တည်ရှိတဲ့အမှတ်စဉ်များ အပေါ် အခြေခံပြီးမှည့်ခေါ်ထားတယ်ဆိုတဲ့ အယူအဆ အပေါ် မှာအခြေခံတဲ့ယူဆချက်ဖြစ်ပါတယ်။ ဒါကြောင့် ပိုးကရင်ပြက္ခဒိန်မှာပါရှိတဲ့ သတ္တမမြောက်လ လို့ အဓိပ္ပါယ်ရတဲ့ လာနွီး-လားနွီ နဲ့ အဋ္ဌမမြောက်လ လို့ အဓိပ္ပါယ်ရတဲ့ လာဃို-လားဃို့ တို့ဟာ ၎င်းတို့ရဲ့အမည်နဲ့ ကိုက်ညီတဲ့ ပိုးကရင်ပြက္ခဒိန်ရဲ့ အမှတ်စဉ်(၇)နဲ့(၈)တို့မှာ မတည်ရှိဘဲ၎င်းတို့ရဲ့အမည်နဲ့ကိုက်ညီမှုမရှိတဲ့ အမှတ်စဉ် (၆)နဲ့(၇)တို့မှာလွဲမှားစွာတည်ရှိနေကြတယ်လို့ဆိုလိုခြင်း ဖြစ်ပါတယ်။

ကရင်လများရဲ့အမည်ကို ကောင်းကင်မှာလှည့်ပတ် သွားလာနေကြတဲ့ နေ၊လ၊နက္ခတ်တာရာ၊ မြေပြင်ပေါ်မှာ ဖူးပွင့်လေ့ရှိတဲ့ သစ်ပင်ပန်းမန်၊ တောနေတိရစ္ဆာန်တို့ရဲ့ အလေ့အထ၊ ကရင်လူမျိုးတို့ရဲ့ ရိုးရာဓလေ့ထုံးတမ်း နဲ့ အသက်မွေးဝမ်းကျောင်းပြုတဲ့အလုပ်အကိုင်များအပေါ် အခြေခံပြီး မှည့်ခေါ်ခဲ့ကြတယ် လို့ ကရင်သုတေသီ ပညာရှင်များကမိန့်ဆိုထားခဲ့ကြပါတယ်။

. သတ္တမမြောက်လကို ပိုးကရင်လို လဧန္ဓာ လို့ ရေးပါတယ်။လာန္ဓေး-လားန္ဓေ လို့ အသံထွက်ပါတယ်။ ပိုးကရင်ပြက္ခဒိန်ရဲ့အမှတ်စဥ်(၆)မှာတည်ရှိတဲ့လကို ပိုးကရင်လို လဧန္ဓာ လို့ ရေးပါတယ်။ လာန္ဓီး-လားန္ဓီ လို့ အသံထွက်ပါတယ်။ သတ္တမမြောက်လ လို့ အဓိပ္ပါယ်မရပါဘူး။ ဒါကြောင့် ပိုးကရင်ပြက္ခဒိန်ရဲအမှတ်စဥ်(၆)မှာတည်ရှိတဲ့ လာန္ဓီ-လားန္ဓီး ဆိုတဲ့လကို ပိုးကရင်ပြက္ခဒိန်ရဲ့ သတ္တမမြောက်လ လို့ ယူဆခြင်းဟာမှန်ကန်မှုမရှိပါဘူး။

အဋ္ဌမမြောက်လကို ပိုးကရင်လို လဧဗိႇ လို့ ရေးပါတယ်။ လာဃို-လားဃို့ လို့ အသံထွက်ပါတယ်။ ပိုးကရင်ပြက္ခဒိန်ရဲ့ အမှတ်စဥ်(၇)မှာတည်ရှိတဲ့လကို ပိုးကရင်လို လဧဗိဒ လို့ရေးပါတယ်။ လာဃို-လားဃို့ လို့ အသံထွက်ပါတယ်။ ပျားဖယောင်းလ(ဝါ)ပျားဖယောင်း များကိုစုဆောင်းတဲ့လလို့ အဓိပ္ပါယ်ရပါတယ်။ ဒါကြောင့် ပိုးကရင်ပြက္ခဒိန်ရဲ့အမှတ်စဥ်(၇)မှာတည်ရှိတဲ့ လာဃို-လားဃို့ဆိုတဲ့လကို ပိုးကရင်ပြက္ခဒိန်ရဲ့အဋ္ဌမမြောက်လ လို့ ယူဆခြင်းဟာလည်းမှန်ကန်မှုမရှိပါဘူး။

ပိုးကရင်ပြက္ခဒိန်ရဲ့ အမှတ်စဥ်(၆)နဲ့(၇)တို့မှာ တည်ရှိတဲ့ လာန္ဓီး-လားန္ဓီ နဲ့ လာဃို-လားလို့ တို့ဟာ သတ္တမမြောက်လ နဲ့ အဋ္ဌမမြောက်လ လို့ အဓိပ္ပါယ်မရခြင်း၊ ကရင်ပြက္ခဒိန်မှာပါရှိတဲ့လများရဲ့အမည်ကို ၎င်းတို့တည်ရှိတဲ့အမှတ်စဥ်များအပေါ်အခြေခံပြီး မှည့်ခေါ်ထားတယ်ဆိုတဲ့ယူဆချက်ဟာ ကရင်သုတေသီပညာရှင်များရဲ့မိန့်ဆိုချက်နဲ့ကိုက်ညီမှုမရှိခြင်းတို့ကြောင့် ပိုးကရင်ပြက္ခဒိန်မှာပါရှိတဲ့ လာန္ဓီး-လားန္ဓီ နဲ့ လာဃို-လားဃို့ တို့ဟာ အဆိုပါပြက္ခဒိန်ရဲ့အမှတ်စဥ်(၆)နဲ့အမှတ်စဥ်(၇) တို့မှာ လွဲမှားစွာတည်ရှိနေတယ်ဆိုတဲ့ ယူဆချက်ဟာ ခိုင်မာမှုမရှိဘူးလို့ဆိုရမှာဖြစ်ပါတယ်။

စကောကရင်ပြက္ခဒိန်ရဲ့ အမှတ်စဥ်(၆)မှာလည်း လားနွီး ဆိုတဲ့ လတစ်လတည်ရှိပါတယ်။ အဆိုပါ လဟာ လေမိုးသည်းထန်တဲ့လဖြစ်ပါတယ်။ လေဒဏ်မိုးဒဏ်ကြောင့်မြေပြင်ပေါ်မှာပေါက်ရောက်နေတဲ့သစ်ပင်ဝါးပင်များဟာကိုင်းညွတ်လွန့်လူးနေလေ့ရှိပါတယ်။ ထိုကဲ့သို့ သစ်ပင်ဝါးပင်များကိုင်းညွတ်လွန့်လူးနေခြင်းကို စကောကရင်လို တနွီး လို့ခေါ်ပါတယ်။ တနွီး ဆိုတဲ့ ဝေါဟာရမှာ ပါရှိတဲ့ နွီး ဆိုတဲ့ စာလုံးကိုအကြောင်းပြုပြီး အဆိုပါလကို စကောကရင်လူမျိုးတို့က လားနွီး လို့ ခေါ်ဝေါ်ခဲ့ကြပါတယ်။

စကောကရင်ပြက္ခဒိန်ရဲ့အမှတ်စဥ်(၆)မှာတည်ရှိတဲ့ လားနွီး ဆိုတဲ့အမည်နဲ့ဆီလျော်တဲ့အဓိပ္ပါယ်ဖွင့်ဆိုချက်ကို တွေ့ရှိရပေမယ့် ပိုးကရင်ပြက္ခဒိန်ရဲ့ အမှတ်စဥ်(၆)မှာ တည်ရှိတဲ့ လာနွီး-လားနွီ ဆိုတဲ့ အမည်နဲ့ ဆီလျော်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကိုတော့ ယနေ့အထိမတွေ့ရှိရသေးပါဘူး။ မိမိလက်လှမ်းမီသလောက် မိမိနဲ့ခင်မင်ရင်းနှီးတဲ့ အပေါင်းအသင်းမိတ်ဆွေများ နဲ့ ဆရာသမားများကို မေးမြန်းကြည့်တဲ့အခါမှာလည်း သတ္တမမြောက်လ ဆိုတဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကလွဲပြီးအခြားဆီလျော်တဲ့အဓိပ္ပါယ်ဖွင့်ဆိုချက်မျိုးကိုမကြားရသေးပါဘူး။ဒါကြောင့်ပိုးကရင်လူမျိုးတိုင်း အထူးသဖြင့် ပိုးကရင်မျိုးဆက်သစ် လူငယ်တိုင်း မိမိတို့ရဲ့ ရိုးရာဓလေ့ထုံးတမ်းစဥ်လာများကို သိရှိနိုင်ရေးအတွက် ပိုးကရင်ပြက္ခဒိန်ရဲ့ အမှတ်စဥ်(၆)မှာ တည်ရှိတဲ့ လာနွီး-လားနွီ ဆိုတဲ့ အမည် နဲ့ ဆီလျော်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကို မိန့်ကြားပေးကြပါရန် ပိုးကရင် ဗုဒ္ဓဘာသာဘုန်းတော်ကြီးများ နဲ့ ပိုးကရင်ပညာရှင်ကြီးများအား လေးစားစွာပန်ကြားအပ်ပါတယ်။

(ကိုဗစ်ကပ်ရောဂါဘေးမှကင်းဝေးကြပါစေ)

## ပိုးကရင်လူမျိုးတို့၏ဂေဒဿမမြောက်လဖြစ်သည့် လားနန်(လ၁နၢ)နှင့်သက်ဆိုင်သော အမိပွဲါယ်ဖွင့်ဆိုချက်နှစ်ရပ်

အဂ္ဂုတ္တရနိကာယ် ပဥ္စကနိပါတ် အာဒိယသုတ္တန်မှာ မိမိတို့တရားသဖြင့်ရှာဖွေလို့ရရှိထားတဲ့ပစ္စည်းဥစ္စာတွေနဲ့

၁။ ဆွေမျိုးတို့ကိုပေးကမ်းထောက်ပံ့ချီးမြှင့်ရမယ်

၂။ ဧည့်သည်တို့ကိုပေးကမ်းထောက်ပံ့ချီးမြှင့်ရမယ်

၃။ သေလွန်သူဆွေမျိုးတို့အားရည်မှန်းပြီးလှူဒါန်းရမယ်

၄။ မင်းတို့အားအခွန်အတုပ်ဆက်သရမယ်

၅။ ရှိုးရာနတ်တို့အားပူဇော်ပသမှုပြုရမယ်

လို့ ဖော်ပြထားပါတယ်။

ဒါကြောင့် ဗုဒ္ဓဘာသာဝင်မြန်မာ့တိုင်းရင်းသားလူမျိုးများဟာ နတ်တော်လမှာ မိမိတို့ရဲ့ရှိုးရာနတ်တို့ကို စားဖွယ်သောက်ဖွယ်ရာတို့ဖြင့်ပူဇော်ပသလေ့ရှိပါတယ်။ နတ်တို့ပျော်တဲ့လဖြစ်တဲ့အတွက် အဆိုပါလကို ဗမာလူမျိုးတို့က နတ်ပျော်လ လို့ခေါ်ဝေါ်ခဲ့ကြပါတယ်။ ရှေးအခါက ဗမာလူမျိုးတို့ရဲ့နတ်ပျော်လ ဆိုတဲ့အခေါ်အဝေါ်ဟာယခုအခါနတ်တော်လ ဆိုတဲ့ အခေါ်အဝေါ်သို့ ပြောင်းလဲသွားပြီဖြစ်ပါတယ်။

ဗုဒ္ဓဘာသာဝင်မြန်မာ့တိုင်းရင်းသားပိုးကရင်လူမျိုးများဟာလည်း အခြားဗုဒ္ဓဘာသာဝင် မြန်မာ့တိုင်းရင်းသားလူမျိုးများနည်းတူနတ်တော်လမှာပိုးကရင်လို နာ(နၤ)လို့ခေါ်တဲ့ မိမိတို့ရဲ့ရှိုးရာနတ်တို့ကို စားဖွယ်သောက်ဖွယ်ရာတို့ဖြင့် ပူဇော်ပသလေ့ရှိပါတယ်။ ပိုးကရင်လို နာ(နၤ)လို့ခေါ်တဲ့ မိမိတို့ရဲ့ရှိုးရာနတ်တို့ကို စားဖွယ်သောက်ဖွယ်ရာတို့ဖြင့်ပူဇော်ပသလေ့ရှိတဲ့လဖြစ်တဲ့အတွက်အဆိုပါလကို ပိုးကရင်လူမျိုးတို့က လားနာ(လ၁နၤ )လို့ ခေါ်ဝေါ်ခဲ့ကြပါတယ်။

ယနေ့ မြန်မာနိုင်ငံမှာအသုံးပြုလျက်ရှိတဲ့ ပိုးကရင်ပြက္ခဒိန်များမှာ လားနာ(လဧနၪ)ဆိုတဲ့လ မပါရှိဘဲ လားနန်(လဧနၫ)ဆိုတဲ့လသာပါရှိကြောင်းတွေ့ မြင်ရပါတယ်။ဒီလိုတွေ့မြင်ရတဲ့အကြောင်းကတော့ ရှေးအခါက ဗမာလူမျိုးတို့ရဲ့ နတ်ပျော်လ ဆိုတဲ့ အခေါ်အဝေါ်ဟာ ယခုအခါ နတ်တော်လ ဆိုတဲ့အခေါ်အဝေါ်သို့ ပြောင်းလဲသွားသလို ရှေးအခါက ပိုးကရင်လူမျိုးတို့ရဲ့ လားနာ (လဧနၪ)ဆိုတဲ့ အခေါ်အဝေါ်ဟာ ယခုအခါ လားနန် (လဧနၫ)ဆိုတဲ့ အခေါ်အဝေါ်သို့ ပြောင်းလဲသွားခြင်းပဲ ဖြစ်လိမ့်မယ်လို့ ယူဆရပါတယ်။

လားနန်(လဧနၫ)နဲ့ပတ်သက်တဲ့ အခြားယူဆချက်တစ်ရပ်ကတော့ ပိုးကရင်လူမျိုးတို့ရဲ့ နန်(နၫ)ဆိုတဲ့ အခေါ်အဝေါ်ဟာ မောင်းနှင်ခြင်းလို့ အဓိပ္ပါယ်ရကြောင်း၊ ကရင်လူမျိုးတို့ဟာအဆိုပါလမှာစပေါင်းအမဲလိုက်လေ့ရှိကြောင်း၊ အမဲလိုက်တဲ့အခါမှာ တောခြောက်သူတွေဟာ သားကောင်များကို မုဆိုးများရှိရာဘက်သို့ ဆူညံတဲ့အသံပြုပြီး ခြောက်လှန့်(မောင်းနှင်)ကြကြောင်း၊ ထိုကဲ့သို့ သားကောင်များကို ခြောက်လှန့်(မောင်းနှင်)ကြသည့်လ (အမဲလိုက်သည့်လ) ဖြစ်သည့်အတွက် အဆိုပါလကို ပိုးကရင်လူမျိုးတို့က လားနန်(လဧနၫ)ဟုခေါ်ဝေါ်ခြင်း ဖြစ်ကြောင်း စာရေးဆရာမန်းလင်းမြတ်ကျော် ရေးသားပြုစုတဲ့ ကရင်လူမျိုးတို့၏ မူလသမိုင်း နှင့် ရိုးရာပြက္ခဒိန်တင်ပြချက်စာတမ်းမှာရေးသားဖော်ပြထားပါတယ်။

ဒါကြောင့် ပိုးကရင်လူမျိုးတို့ရဲ့ ကေဒဿမမြောက်လရဲ့ အမည်ဟာ လားနာ(လဧနၪ)လား ဒါမှမဟုတ် လားနန် (လဧနၫ)လားဆိုတာကို ပိုးကရင်လူမျိုးတိုင်း သိရှိနိုင်ရန် ပိုးကရင်ပညာရှင်ကြီးများက ရှင်းလင်းမိန့်ကြားပေးကြပါရန် လေးစားစွာပန်ကြားအပ်ပါတယ်။

# ပိုးကရင်ဒုတိယမြောက်အသတ်
# (ဖျိုဲ့ရှိလ်ႋခဒိဒနံ့ၢဖျိ့လဖျိ့)
# အကြောင်းသိကောင်းစရာ

ပိုးကရင်ဒုတိယမြောက်အသတ်(ဖျိုဲ့ရှိလ်ႋခဒိဒနံ့ၢဖျိ့လဖျိ့)ကို စစ်တောင်းမြစ်၏အနောက်ဘက်ခြမ်းတွင်တည်ရှိသော ရန်ကုန်တိုင်းနှင့်ဧရာဝတီတိုင်းရှိ ပိုးကရင်(အနောက်)လူမျိုးတို့က ကိုင်ဆိတ်(ကဲၪဆံဒ)ဟု ခေါ်ဝေါ်ရေးသားကြပြီး စစ်တောင်းမြစ်၏အရှေ့ဘက်ခြမ်းတွင်တည်ရှိသော မွန်ပြည်နယ်နှင့်ကရင်ပြည်နယ်ရှိ ပိုးကရင်(အရှေ့)လူမျိုးတို့ကကိုင်းပေ့(ကဲၪပ့ၢ)ဟုခေါ်ဝေါ်ရေးသားကြပါသည်။

ပိုးကရင်(အရှေ့)လူမျိုးတို့၏ ကိုင်းပေ့(ကဲၪပ့ၢ)ဟူသောအသံထွက်သည်ပိုးကရင်(အနောက်)လူမျိုးတို့၏ကိုင်ပေ(ကဲၪပ့ၢ)ဟူသောအသံထွက်နှင့်တူညီပါသည်။

၁၉၅၅ ခုနှစ် တွင် ထုတ်ဝေသော ပိုးကရင်သူငယ်တန်း ဖတ်စာအုပ်-စာမျက်နှာ(၁၀)တွင် ကိုင်းပေ့-ကိုင်ပေ (ကဲၪ့ပ့ၢ)ဟူသော ပိုးကရင်ဒုတိယမြောက်အသတ် (ဖျိုၩ့ရှိုလ်ႋခဒိဳနန်ၢဖျိုၪ့လဖျိုၪ့)နှင့်ပတ်သက်၍လၧခးမုထၪ့ ပှဖျိုၩ့လဖၪကိဳဒဝ့ၢလၧ(ပ့ၢ), အ့ၪမဲ့ပှလၧမုနူႋလဓိၢကိဳဒဝ့ၢ လၧ(ဆံဒ), ကဲၪ့ပ့ၢဒ်ကဲၪ့ဆံဒနီ့ၪအဓိၢပယိၢမဲ့ဆၧလမံၩ့ဗး နီ့ၪလိၢ ဟုရေးသားဖော်ပြထားပါသည်။

အဆိုပါ ရေးသားဖော်ပြချက်အရ ဆိတ်(ဆံဒ)နှင့် ပေ့-ပေ(ပ့ၢ)ဟူသောစာလုံးတို့သည်အနက်အဓိပ္ပါယ်ချင်း တူညီကြသည့်အတွက် ကိုင်ဆိတ်(ကဲၪ့ဆံဒ)နှင့်ကိုင်းပေ့-ကိုင်ပေ(ကဲၪ့ပ့ၢ)တို့သည် အနက်အဓိပ္ပါယ်ချင်း တူညီကြပါသည်။

ထို့ကြောင့် ပိုးကရင်ဒုတိယမြောက်အသတ် (ဖျိုၩ့ရှိုလ်ႋခဒိဳနန်ၢဖျိုၪ့လဖျိုၪ့)၏အမည်မှာ ကိုင်ဆိတ်(ကဲၪ့ဆံဒ), ကိုင်းပေ့(ကဲၪ့ပ့ၢ) နှင့် ကိုင်ပေ(ကဲၪ့ပ့ၢ)တို့ဖြစ်ပါသည်။

ယခုအခါ ပိုးကရင်(အနောက်)လူမျိုးအချို့က ပိုးကရင်ဒုတိယမြောက်အသတ် (ဖျိုၩ့ရှိုလ်ႋခဒိဳနန်ၢဖျိုၪ့လဖျိုၪ့) ကို ကိုင်ပီး ဟု ခေါ်ဝေါ်သုံးစွဲလျက်ရှိကြသော်လည်း ထိုကဲ့သို့ ခေါ်ဝေါ်သုံးစွဲရခြင်းနှင့်ပတ်သက်သည့်မည်သည့်ရေးသား ဖော်ပြချက်ကိုမျှမတွေ့ရှိရသေးပါ။

ထို့ကြောင့် ပိုးကရင်(အနောက်)လူမျိုးများအနေဖြင့် ပိုးကရင်ဒုတိယမြောက်အသတ် (ဖျိုၩ့ရှိုလ်ႋခဒိဳနန်ၢဖျိုၪ့လဖျိုၪ့)ကိုမိမိတို့၏ဒေသအသံထွက်နှင့်ဆီလျော်မှုရှိသော ကိုင်ဆိတ်(ကဲၪ့ဆံဒ)ဟုသာ ခေါ်ဝေါ်သုံးစွဲသင့်ပါကြောင်း တင်ပြအပ်ပါသည်။

# ပိုးကရင်
# လများ၏အမည်နှင့်အဓိပ္ပါယ်ဖွင့်ဆိုချက်

.............................................................

ကရင်လများရဲ့အမည်ကို မိုးကောင်းကင်မှာ လှည့်ပတ်သွားလာနေတဲ့ နေ၊လ၊နက္ခတ်တာရာ၊ မြေပြင်ပေါ်မှာဖူးပွင့်လေ့ရှိတဲ့ သစ်ပင်၊ပန်းမာန်၊ ကရင်လူမျိုးတို့ရဲ့ မိရိုးဖလာ ယုံကြည်လက်ခံမှု၊ ရိုးရာဓလေ့ထုံးတမ်း၊ အသက်မွေးဝမ်းကျောင်း လုပ်ငန်းနဲ့ တောတိရစ္ဆာန်တို့ရဲ့ အလေ့အထများ အပေါ် အခြေခံပြီးမှည့်ခေါ်ခဲ့ကြပါတယ်။

ပိုးကရင်လူမျိုးတို့ဟာ မွန်၊ဗမာလူမျိုးတို့နဲ့ ရှေးနှစ်ပေါင်းများစွာကတည်းကစပြီး အတူယှဥ်တွဲနေထိုင်လာခဲ့ကြတဲ့အတွက် ယနေ့ ပိုးကရင်လူမျိုးတို့အသုံးပြုနေကြတဲ့ကရင်ပြက္ခဒိန်များရဲ့ ရက်သတ္တတစ်ပတ်အတွင်းမှာပါရှိတဲ့ နေ့များနဲ့ ပြက္ခဒိန်နှစ်တစ်နှစ်အတွင်းမှာပါရှိတဲ့ လများမှာ မွန်၊ဗမာ နဲ့ ပါဠိသက် ဝေါဟာရများကို မိမိတို့ရဲ့ ဒေသအသံထွက်နဲ့ခေါ်ဝေါ်တဲ့ ဝေါဟာရများစွာ ပါဝင်လျက်ရှိကြောင်းတွေ့မြင်ရပါတယ်။

ပိုးကရင်ပြက္ခဒိန်မှာပါရှိတဲ့ လများရဲ့အမည်နဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်များကတော့ အောက်ပါ အတိုင်းဖြစ်ပါတယ်။

(၀၁) ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို

ပိုးကရင်ပြက္ခဒိန်ရဲ့နှစ်ဦးလဖြစ်ပါတယ်။

ပိုးကရင်လူမျိုးတို့ရဲ့ ထိုင့်ခေါက်ဖိုး-ထိုင်ခုတ်ဖို ဆိုတဲ့လမှာပါရှိတဲ့ ထိုင့်-ထိုင် ဆိုတဲ့စာလုံးဟာ ရက်ခြင်း၊ခေါက်-ခုတ် ဆိုတဲ့စာလုံးဟာ ရွေးခြင်း၊ ခုတ်ခြင်း၊ ဖိုး-ဖို ဆိုတဲ့စာလုံးဟာ သေးငယ်ခြင်း လို့ အဓိပ္ပာယ်ရပါတယ်။

အဆိုပါလမှာ ကရင်လူမျိုးတို့ဟာ စိုက်ပျိုးရေး လုပ်ငန်းအတွက် လိုအပ်တဲ့ ပလိုင်း၊ တောင်း၊ စသည်တို့ကို ရက်ခြင်း၊ နောက်လာမယ့်နှစ်မှာ စိုက်ပျိုးလုပ်ကိုင်ဖို့သင့်တော်မယ့် မြေနေရာ အသစ်ကိုရှာဖွေခြင်း၊၎င်းတို့ရှာဖွေတွေ့ရှိထားတဲ့ မြေနေရာအသစ်မှာရှိတဲ့ သစ်ပင်သစ်ကိုင်းများ ကို ခုတ်ထစ်အမှတ်အသားပြုခြင်း စတဲ့ အလုပ် များကိုလုပ်ဆောင်ကြပါတယ်။

အဆိုပါအလုပ်များဟာပင်ပန်းကြီးစွာလုပ်ကိုင် ရတဲ့အလုပ်များမဟုတ်တဲ့အတွက် အဆိုပါလကို ကရင်ပြည်နယ်၊ မွန်ပြည်နယ် နဲ့ တနင်္သာရီတိုင်း တို့မှာနေထိုင်ကြတဲ့ပိုးကရင်(အရှေ့)လူမျိုးတို့က ထိုင့်ခေါက်ဖိုး ဟူ၍လည်းကောင်း၊ဧရာဝတီတိုင်း နဲ့ ရန်ကုန်တိုင်းတို့မှာနေထိုင်ကြတဲ့ ပိုးကရင် (အနောက်)လူမျိုးတို့က ထိုင်ခုတ်ဖို ဟူ၍ လည်းကောင်း ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

(၁၂)ထိုင့်ခေါက်ဒိုး-ထိုင်ခုတ်ဒို

ပိုးကရင်ပြက္ခဒိန်ရဲ့ ဒုတိယမြောက်လ ဖြစ်ပါတယ်။

ပိုးကရင်လူမျိုးတို့ရဲ့ ထိုင့်ခေါက်ဒိုး-ထိုင်ခုတ်ဒို ဆိုတဲ့လမှာပါရှိတဲ့ ထိုင့်-ထိုင် ဆိုတဲ့ စာလုံးဟာ ရက်ခြင်း၊ ခေါက်-ခုတ် ဆိုတဲ့စာလုံးဟာ ရှေ့ခြင်း၊ ခုတ်ခြင်း၊ ဒိုး-ဒို ဆိုတဲ့စာလုံးဟာကြီးမားခြင်းလို့ အဓိပ္ပါယ်ရပါတယ်။

အဆိုပါလမှာ ကရင်လူမျိုးတို့ဟာ စိုက်ပျိုးရေးလုပ်ငန်းအတွက် လိုအပ်တဲ့ ပလိုင်း၊ တောင်း၊ စသည်တို့ကိုရက်ခြင်း၊ မိမိတို့စိုက်ပျိုးလုပ်ကိုင်ဖို့ ရွေးချယ် အမှတ်အသားပြုထားတဲ့ မြေနေရာအသစ်မှာရှိတဲ့သစ်ပင်၊သစ်မြစ်၊သစ်ကိုင်းများကို ခုတ်လှဲတူးဖော်ရှင်းလင်းခြင်းစတဲ့အလုပ်များကို ပင်ပန်းကြီးစွာလုပ်ကိုင်ကြရပါတယ်။

အဆိုပါအလုပ်များဟာပင်ပန်းကြီးစွာလုပ်ကိုင်ရတဲ့ အလုပ်များဖြစ်တဲ့အတွက် အဆိုပါလကို ပိုးကရင်(အရှေ့)လူမျိုးတို့က ထိုင့်ခေါက်ဒိုး ဟူ၍လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က ထိုင်ခုတ်ဒို ဟူ၍လည်းကောင်း ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

(၀၃) လာသောန့်-တဖန့်

ပိုးကရင်ပြက္ခဒိန်ရဲ့ တတိယမြောက်လ ဖြစ်ပါတယ်။

ပိုးကရင်ပြက္ခဒိန်ရဲ့ တတိယမြောက်လ ဖြစ်တဲ့အတွက် အဆိုပါလကို ပိုးကရင်(အရှေ့)လူမျိုးတို့က လာသောန့်(တတိယမြောက်လ) လို့ ခေါ်ဝေါ်ကြပါတယ်။

ပိုးကရင်(အရှေ့)လူမျိုးအချို့ဟာ အဆိုပါလကို တဖောင်း လို့ ခေါ်ဝေါ်ကြောင်း၊ ဗမာလူမျိုးတို့ရဲ့ တပေါင်းလကို ကရင်မှုပြု(မွေးစား)ခေါ်ဝေါ်ခြင်းဖြစ်ကြောင်းစာရေးဆရာမန်းလင်းမြတ်ကျော်ရဲ့ ကရင်လူမျိုးတို့၏မူလသမိုင်း နှင့် ရိုးရာပြက္ခဒိန်တင်ပြချက်စာတမ်းမှာ ရေးသားဖော်ပြထားပါတယ်။

တဖောင်း ဆိုတဲ့ ပိုးကရင်(အရှေ့) လူမျိုးတို့ရဲ့အသံထွက်ဟာ တဖန့် ဆိုတဲ့ ပိုးကရင်(အနောက်)လူမျိုးတို့ရဲ့အသံထွက်နဲ့ တူညီပါတယ်။

ဒါကြောင့် ပိုးကရင်ပြက္ခဒိန်ရဲ့ တတိယမြောက်လကို ပိုးကရင်(အရှေ့)လူမျိုးတို့က လာသောန့် ဟူ၍လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က တဖန့် ဟူ၍လည်းကောင်း ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

တပေါင်းလဟာ ဇွဲကပင်ဘုရားပွဲကျင်းပတဲ့လ ဖြစ်ပါတယ်။ ဒါကြောင့် ပိုးကရင်(အရှေ့)လူမျိုးတို့ဟာနှစ်စဉ်တပေါင်းလမှာဇွဲကပင်တောင်ပေါ် သို့တက်ကာ ဘုရားဖူးလေ့ရှိပြီး အဆိုပါလကို လာထောင်းကလွန် (တောင်ပေါ်တက်ပြီးဘုရားဖူးတဲ့လ)လို့လည်း ခေါ်ဝေါ်ကြပါတယ်။

မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီကထုတ်ဝေတဲ့ ကရင် ဆိုတဲ့စာအုပ်မှာ ပိုးကရင်ပြက္ခဒိန်ရဲ့ တတိယမြောက်လကို ပိုးကရင်(အရှေ့)လို တဖန်း လို့ခေါ်တယ်လို့ဖော်ပြထားပေမယ့်လည်း အဓိပ္ပါယ်ဖွင့်ဆိုထားခြင်းကိုတော့ မတွေ့ရှိရပါဘူး။

(၀၄) လာတာ-လားတား

ပိုးကရင်ပြက္ခဒိန်ရဲ့ စတုတ္ထမြောက်လ ဖြစ်ပါတယ်။

အတာ(သင်္ကြန် )ကို ပိုးကရင်(အရှေ့)လူမျိုးတို့က အတာ ဟူ၍လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က တား ဟူ၍ လည်းကောင်း ခေါ်ဝေါ်ကြပါတယ်။

အတာ(သင်္ကြန်)ကျတဲ့လ ဖြစ်တဲ့အတွက် အဆိုပါလကို ပိုးကရင်(အရှေ့)လူမျိုးတို့က လာတာ ဟူ၍လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က လားတား ဟူ၍

လည်းကောင်း ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

(၀၅) လာယာ့-လားယာ

ပိုးကရင်ပြက္ခဒိန်ရဲ့ ပဥ္စမမြောက်လ ဖြစ်ပါတယ်။

အဆိုပါလမှာ ပိုးကရင်(အရှေ့)လို ဖော့ယာ့၊ ပိုးကရင်(အနောက်)လို ဖော်ယာ လို့ခေါ်တဲ့ နှင်းပန်းများဖူးပွင့်လေ့ရှိပါတယ်။ ထိုကဲ့သို့ နှင်းပန်းများဖူးပွင့်လေ့ရှိတဲ့လ ဖြစ်တဲ့အတွက် အဆိုပါလကို ပိုးကရင်(အရှေ့)လူမျိုးတို့က လာယာ့ ဟူ၍လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က လားယာ ဟူ၍ လည်းကောင်းခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

(၀၆) လာနွီး-လားနွီ

ပိုးကရင်ပြက္ခဒိန်ရဲ့ ဆဋ္ဌမမြောက်လ ဖြစ်ပါတယ်။

လာနွီး-လားနွီ နဲ့ ပတ်သက်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်တချို့ကိုတွေ့ရှိရပေမယ့်ကြောင်းကျိုးဆီလျော်မှု(ခိုင်မာမှု) အားနည်းသည့်အတွက် ဤနေရာတွင်မဖော်ပြတော့ပါ။ ကြောင်းကျိုးဆီလျော်မှု(ခိုင်မာမှု)အားကောင်းတဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကိုတွေ့ရှိတဲ့အချိန်မှာ ဆက်လက်ပြီးဖော်ပြပေးပါမယ်။

နောင်လာနောက်သား ပိုးကရင်မျိုးဆက်သစ် လူငယ်များလေ့လာသိရှိနိုင်ရန်အတွက် လာနီး-လားနီ နဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကို ပိုးကရင်ပညာရှင်ကြီးများက ရှင်းလင်းမိန့်ကြား ပေးကြပါရန် လေးစားစွာမေတ္တာရပ်ခံ ပန်ကြား အပ်ပါတယ်။

(၀၇) လာယှို-လားယှို့

ပိုးကရင်ပြက္ခဒိန်ရဲ့ သတ္တမမြောက်လ ဖြစ်ပါတယ်။

အဆိုပါလဟာ ကရင်လူမျိုးတို့ ပျားဖွတ်လေ့ရှိတဲ့လ ဖြစ်ပါတယ်။

အဆိုပါလဟာလည်း လေမိုးသည်းထန်တဲ့လ ဖြစ်ပါတယ်။ လေဒဏ်မိုးဒဏ်ကြောင့် ပျားအုံများပင်လျှင် မြေပြင်ပေါ်သို့ပြုတ်ကျလေ့ရှိတဲ့လ ဖြစ်ပါတယ်။ အဆိုပါလမှာ ကရင်လူမျိုးတို့ဟာ မြေပြင်ပေါ်မှာပြုတ်ကျနေတဲ့ ပျားအုံများကို လိုက်လံရှာဖွေကောက်ယူပြီး ပျားရည် နဲ့ ပျားဖယောင်းများကို စုဆောင်းလေ့ရှိပါတယ်။ ဒါကြောင့် ပျားဖယောင်း လို့အဓိပ္ပါယ်ရတဲ့ ပိုးကရင်(အရှေ့)လူမျိုးတို့ရဲ့ ယှို ဆိုတဲ့ အသံထွက် နဲ့ ပိုးကရင်(အနောက်)လူမျိုးတို့ရဲ့ ယှို့ ဆိုတဲ့ အသံထွက်တို့ကိုအကြောင်းပြုပြီး အဆိုပါလကို ပိုးကရင်(အရှေ့) လူမျိုးတို့က လာယှို ဟူ၍

လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က လားဃို့ ဟူ၍လည်းကောင်း ခေါ်ဝေါ်ခြင်း ဖြစ်ပါတယ်။

(၀၈) လာခေါက်-လားခုတ်

ပိုးကရင်ပြက္ခဒိန်ရဲ့ အဋ္ဌမမြောက်လ ဖြစ်ပါတယ်။

ဖွတ်သတ္တဝါကို ပိုးကရင်(အရှေ့)လူမျိုးတို့က ခေါက် ဟူ၍လည်းကောင်း၊ပိုးကရင်(အနောက်) လူမျိုးတို့က ခုတ် ဟူ၍လည်းကောင်း ခေါ်ဝေါ် ကြပါတယ်။

အဆိုပါလဟာ လေမိုးသည်းထန်ပြီး ရေကြီးတဲ့ လဖြစ်ပါတယ်။ ရေကြီးခြင်းကြောင့် ပိုးကရင် (အရှေ့)လို ခေါက်၊ ပိုးကရင်(အနောက်)လို ခုတ် လို့ခေါ်တဲ့ ဖွတ်သတ္တဝါတို့ကုန်းပေါ်သို့တက်ပြီး ဥလေ့ရှိတဲ့လဖြစ်တဲ့အတွက် ၎င်းလကိုပိုးကရင် (အရှေ့)လူမျိုးတို့က လာခေါက် ဟူ၍လည်း ကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က လားခုတ် ဟူ၍လည်းကောင်း ခေါ်ဝေါ်ခြင်းဖြစ် ပါတယ်။

(၀၉) ဆီမူး-ဆီမု

ပိုးကရင်ပြက္ခဒိန်ရဲ့ နဝမမြောက်လ ဖြစ်ပါတယ်။

ဆီမှူး-ဆီမု နဲ့ပတ်သက်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်တချို့ကိုတွေ့ရှိရပေမယ့် ကြောင်းကျိုးဆီလျော်မှု (ခိုင်မာမှု)အားနည်းသည့်အတွက် ဤနေရာတွင် မဖော်ပြတော့ပါ။ ကြောင်းကျိုးဆီလျော်မှု (ခိုင်မာမှု)အားကောင်းတဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကိုတွေ့ရှိတဲ့အချိန်မှာ ဆက်လက်ပြီး ဖော်ပြပေးပါမယ်။

နောင်လာနောက်သား ပိုးကရင်မျိုးဆက်သစ်လူငယ်များလေ့လာသိရှိနိုင်ရန်အတွက် ဆီမှူး-ဆီမု နဲ့သက်ဆိုင်တဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်ကို ပိုးကရင်ပညာရှင်ကြီးများက ရှင်းလင်းမိန့်ကြားပေးကြပါရန် လေးစားစွာမေတ္တာရပ်ခံအပ်ပါတယ်။

(၁၀) ကတောက်ဝေါ-ခတုတ်ဝေါ့

ပိုးကရင်ပြက္ခဒိန်ရဲ့ ဒသမမြောက်လ(ဆယ်လမြောက်လ)ဖြစ်ပါတယ်။

ပိုးကရင်လူမျိုးတို့ရဲ့ ကတောက်ဝေါ-ခတုတ်ဝေါ့ ဆိုတဲ့ အခေါ်အဝေါ်ဟာ မွန်လူမျိုးတို့ရဲ့ ဟတောက်ဝေါ ဆိုတဲ့အခေါ်အဝေါ်မှ ပြောင်းလဲဖြစ်ပေါ်လာတဲ့ အခေါ်အဝေါ်ဖြစ်ကြောင်း၊ မွန်လူမျိုးတို့ရဲ့ ဟတောက် ဆိုတဲ့ အခေါ်အဝေါ်ဟာ လ လို့အဓိပ္ပါယ်ရပြီး ဝေါ ဆိုတဲ့အခေါ်အဝေါ် ကတော့ ဝါ လို့ အဓိပ္ပါယ်ရကြောင်း၊ မွန်လူမျိုး

တို့က ဟတောက်ဝေါ လို့ ခေါ်တဲ့လကို ပိုးကရင် (အရှေ့)လူမျိုးတို့ကငင်းတို့ရဲ့ဒေသအသံထွက်နဲ့ ကတောက်ဝေါ ဟူ၍လည်းကောင်း၊ ပိုးကရင် (အနောက်)လူမျိုးတို့က ငင်းတို့ရဲ့ဒေသ အသံထွက်နဲ့ ခတုတ်ဝေ့ါ ဟူ၍လည်းကောင်း ခေါ်ဝေါ်ကြောင်း မန်းလင်းမြတ်ကျော်ရေးတဲ့ ကရင်လူမျိုးတို့၏မူလသမိုင်း နှင့် ရိုးရာပြက္ခဒိန် တင်ပြချက်စာတမ်းမှာ ရေးသားဖော်ပြထား ပါတယ်။

ကတောက်ဝေါ-ခတုတ်ဝေ့ါ ဆိုတဲ့ ပိုးကရင် လူမျိုးတို့ရဲ့ ဝေါဟာရဟာ ဗမာလို ဝါလ လို့ အဓိပ္ပါယ်ရပါတယ်။

ဆက်လက်ပြီး ပိုးကရင်(အနောက်)လူမျိုးတို့ရဲ့ ခိုင်ထုတ်(ခဲ့ါထုㄴ)ဆိုတဲ့ ဝေါဟာရက နောက်ဆုံး လို့ အဓိပ္ပါယ်ရပြီး ဝေ့ါ(ဝီ)ဆိုတဲ့ ဝေါဟာရက ဝါ လို့ အဓိပ္ပါယ်ရပါတယ်။ ဒါကြောင့် ခိုင်ထုတ်ဝေ့ါ ဆိုတဲ့ဝေါဟာရဟာဗုဒ္ဓဘာသာဝင်ပိုးကရင်လူမျိုး တို့ရဲ့ပစ္ဆိမဝါလ လို့ အဓိပ္ပါယ်ရကြောင်း စာရေး ဆရာသမိန်မုပလန်းရဲ့ ကရင်မဟာဗုဒ္ဓဓမ္မရွှေစာ ငွေစာ စာအုပ်မှာရေးသားဖော်ပြထားပါတယ်။

ကတောက်ဝေါ နဲ့ ခတုတ်ဝေ့ါ ဟာ မွန်လူမျိုးနဲ့ ပိုးကရင်(အရှေ့)လူမျိုးတို့ထံမှ ဖြစ်ထွန်းလာတဲ့ အခေါ်အဝေါ်ဖြစ်ပြီး ခိုင်ထုတ်ဝေ့ါ ကတော့ ပိုး ကရင်(အနောက်)လူမျိုးတို့ထံမှဖြစ်ထွန်းလာတဲ့

အခေါ်အဝေါ်ဖြစ်ပေမယ့် ဝါလ ဆိုတဲ့ အဓိပ္ပါယ်ကို တူညီစွာဖော်ညွှန်းလျက်ကြောင်း တွေ့ရှိရပါတယ်။

(၁၁) လာနောင့်-လားနန်

ပိုးကရင်ပြက္ခဒိန်ရဲ့ ကေဒသဃမမြောက်လ (တစ်ဆယ့်တစ်လမြောက်လ)ဖြစ်ပါတယ်။

ပိုးကရင်လူမျိုးတို့ရဲ့ နောင့်-နန် ဆိုတဲ့ အခေါ်အဝေါ်ဟာမောင်းနှင်ခြင်းလို့အဓိပ္ပါယ်ရကြောင်း ကရင်လူမျိုးတို့ဟာ အဆိုပါလမှာ စုပေါင်းပြီးအမဲလိုက်လေ့ရှိကြောင်း၊ အမဲလိုက်တဲ့အခါမှာ တောခြောက်သူတွေဟာ သားကောင်များကို မုဆိုးများရှိရာဘက်သို့ ဆူညံတဲ့အသံတွေပြုပြီး ခြောက်လှန့်မောင်းပို့ပေးရကြောင်း၊ ဒါကြောင့် အဆိုပါလကို ပိုးကရင်(အရှေ့)လူမျိုးတို့က လာနောင့် ဟူ၍လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က လားနန် ဟူ၍လည်းကောင်းခေါ်ဝေါ်ခြင်းဖြစ်ကြောင်း စာရေးဆရာ မန်းလင်းမြတ်ကျော်ရဲ့ ကရင်လူမျိုးတို့၏ မူလသမိုင်းနှင့်ရိုးရာပြက္ခဒိန်တင်ပြချက်စာတမ်းမှာရေးသားဖော်ပြထားပါတယ်။

ပိုးကရင်လူမျိုးတို့ရဲ့မိရိုးဖလာရိုးရာနတ်များကို ပူဇော်ပသတဲ့လကို ပိုးကရင်(အနောက်)လူမျိုးတို့က လားနာ(လ၃န၂)လို့ ခေါ်တယ်လို့ စာရေး

ဆရာ သမိန်မုပလန်း ရဲ့ ကရင်မဟာ ဗုဒ္ဓဓမ္မ ရွှေစာငွေစာ စာအုပ်မှာရေးသားဖော်ပြထားပါတယ်။ လားနာ(လဧန၂)ဆိုတဲ့ အခေါ်အဝေါ်ဟာ နောက်ပိုင်းမှာ လားနန်(လဧန၇)ဆိုတဲ့ အခေါ်အဝေါ်သို့ ပြောင်းလဲသွားတယ်လို့ ယူဆရပါတယ်။

(၁၂) လာလိန်-လားလိန်း

ပိုးကရင် ပြက္ခဒိန်ရဲ့ ဒွါဒသမမြောက်လ (တစ်ဆယ့်နှစ်လမြောက်လ)ဖြစ်ပါတယ်။

ပိုးကရင်လူမျိုးတို့ရဲ့ လိန်-လိန်း ဆိုတဲ့ အခေါ်အဝေါ်ဟာ ကုန်ပြီ၊ပြောင်ပြီ ဆိုတဲ့ အဓိပ္ပါယ်ကို ဖော်ညွှန်းပါတယ်။ အဆိုပါလမှာ စိုက်ပျိုးသီးနှံအားလုံးကိုရိတ်သိမ်းပြီးစီးသွားပြီဖြစ်တဲ့အတွက် စိုက်ခင်းပျိုးခင်းအားလုံး ပြောင်တလင်းခါနေတဲ့ လလို့ဆိုလိုခြင်းဖြစ်ပါတယ်။ ဒါကြောင့် အဆိုပါလကို ပိုးကရင်(အရှေ့)လူမျိုးတို့က လာလိန် ဟူ၍လည်းကောင်း၊ ပိုးကရင်(အနောက်)လူမျိုးတို့က လားလိန်း ဟူ၍လည်းကောင်း ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

စကောကရင်
လများ၏အမည်နှင့်အဓိပ္ပါယ်ဖွင့်ဆိုချက်

...............................................

ကရင်လများရဲ့အမည်ကို မိုးကောင်းကင်မှာ လှည့်ပတ်သွားလာနေတဲ့ နေ၊လ၊နက္ခတ်တာရာ၊ မြေပြင်ပေါ်မှာဖူးပွင့်လေ့ရှိတဲ့ သစ်ပင်ပန်းမန်၊ ကရင်လူမျိုးတို့ရဲ့ မိရိုးဖလာ ယုံကြည်လက်ခံမှု၊ ရိုးရာဓလေ့ထုံးတမ်း၊ အသက်မွေးဝမ်းကျောင်းလုပ်ငန်း နဲ့ တောတိရစ္ဆာန်တို့ရဲ့အလေ့အထများ အပေါ်မှာအခြေခံပြီးမှည့်ခေါ်ခဲ့ကြပါတယ်။

စကောကရင် ပြက္ခဒိန်မှာပါရှိတဲ့ လများရဲ့ အမည် နဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်များကတော့ အောက်ပါအတိုင်းဖြစ်ပါတယ်။

(၀၁) သလေ(ဝါ)တလေ

စကောကရင်ပြက္ခဒိန်ရဲ့နှစ်ဦးလဖြစ်ပါတယ်။

စကောကရင်လူမျိုးတို့ရဲ့ သလေ ဆိုတဲ့ အခေါ်အဝေါ်ဟာ လွတ်လပ်ခြင်း ဆိုတဲ့ အဓိပ္ပါယ်ကို ဖော်ညွှန်းပါတယ်။

ကရင်လူမျိုးတို့ဟာ တစ်နှစ်တာကာလအတွင်းမှာပင်ပန်းကြီးစွာလုပ်ကိုင်ခဲ့ကြရတဲ့လုပ်ငန်းများ အားလုံး ပြီးစီးသွားပြီးတဲ့နောက် လွတ်လပ်စွာ အနားယူခွင့်ရတဲ့လဖြစ်တဲ့အတွက်အဆိုပါလကို သလေ လို့ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။သလေ ကို

အချို့က တလေ လို့လည်းခေါ်ဝေါ်ကြပါတယ်။
သလေ ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၃၀-ရက်စီပါရှိပါတယ်။



(၀၂) ထေးခု(ဝါ)ထေးကု
စကောကရင်ပြက္ခဒိန်ရဲ့ ဒုတိယမြောက်လ ဖြစ်ပါတယ်။
စကောကရင်လူမျိုးတို့ရဲ့ ထေးခု ဆိုတဲ့ အခေါ် အဝေါ်မှာ ပါရှိတဲ့ ထေး ဆိုတဲ့ စာလုံးဟာ ရက်သည် လို့ အဓိပ္ပါယ်ရပြီး ခု ဆိုတဲ့ စာလုံး ကတော့ ရွေသည်၊ခုတ်သည် လို့ အဓိပ္ပါယ်ရ ပါတယ်။
အဆိုပါလမှာ ကရင်အမျိုးသမီးများဟာ လုပ်ငန်းခွင်မှာလိုအပ်မယ့် ပလိုင်း၊တောင်း၊ စသည်တို့ကိုရက်ကြပြီး အမျိုးသားများကတော့ မိမိတို့စိုက်ပျိုးလုပ်ကိုင်ဖို့ရွေးချယ်သတ်မှတ်ထား တဲ့မြေနေရာအသစ်မှာရှိတဲ့ သစ်ပင်၊သစ်မြစ်၊ သစ်ကိုင်းများကို ခုတ်လှဲ၊တူးဖော်၊ဖြတ်တောက်၊ ရှင်းလင်းကြပါတယ်။ ဒါကြောင့် အဆိုပါလကို ထေးခု လို့ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။
ထေးခု ကို အချို့က ထေးကု လို့လည်းခေါ်ဝေါ် ကြပါတယ်။
ထေးခု ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၂၉-ရက်စီပါရှိပါတယ်။

(၀၃) သွေးကော

စကောကရင်ပြက္ခဒိန်ရဲ့ တတိယမြောက်လ ဖြစ်ပါတယ်။

အဆိုပါလဟာ တောင်ယာကိုမီးရှို့တဲ့လ ဖြစ်ပါတယ်။

စကောကရင်လူမျိုးတို့ရဲ့ သွေးကော ဆိုတဲ့ အခေါ်အဝေါ်မှာပါရှိတဲ့ သွေး ဆိုတဲ့စာလုံးဟာ ပူပြင်းခြောက်သွေ့ခြင်း လို့အဓိပ္ပါယ်ရပြီး ကော ဆိုတဲ့ စာလုံးကတော့ ဖြန့်လှမ်းထားခြင်း လို့ အဓိပ္ပါယ်ရပါတယ်။

အဆိုပါလမှာ ကရင်လူမျိုးတို့ဟာ ပူပြင်းလှတဲ့ နေပူရှိန်အောက်မှာ ၎င်းတို့ ခုတ်လှဲ၊တူးဖော်၊ ဖြတ်တောက်ထားတဲ့သစ်ပင်၊သစ်မြစ်၊သစ်ကိုင်းများကိုခြောက်သွေ့သွားတဲ့အထိ မြေပြင်ပေါ်မှာ ဖြန့်လှမ်းထားပြီး မီးနဲ့ရှို့ပစ်ခြင်း၊ မလောင်ကျွမ်းဘဲကျန်ရှိနေတဲ့ သစ်ပင်၊သစ်မြစ်၊သစ်ကိုင်း၊ အတိုအစများကိုစုပုံပြီး မီးနဲ့ရှို့ပစ်ခြင်းတို့ကို လုပ်ဆောင်လေ့ရှိပါတယ်။ ဒါကြောင့် ပူပြင်းခြောက်သွေ့ခြင်း လို့ အဓိပ္ပါယ်ရတဲ့ သွေး နဲ့ ဖြန့်လှမ်းထားခြင်း လို့ အဓိပ္ပါယ်ရတဲ့ ကော ဆိုတဲ့စာလုံးနှစ်လုံးကိုအကြောင်းပြုပြီး အဆိုပါလကို သွေးကော လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

အဆိုပါလမှာ စကောကရင်လို သီသွေး လို့ ခေါ်တဲ့အကောင်ငယ်တစ်မျိုး အော်မြည်လေ့ရှိ

ပါတယ်။ ဒါကြောင့် သီသွေး ဆိုတဲ့ ဝေါဟာရမှာ ပါရှိတဲ့ သွေး ဆိုတဲ့စာလုံးကိုအကြောင်းပြုပြီး ၎င်းလကို သွေးကော လို့ခေါ်ဝေါ်ခြင်းဖြစ်တယ် လို့လည်းဆိုကြပါတယ်။

သွေးကော ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၃၀-ရက်စီပါရှိပါတယ်။

(၀၄) လားခလီး

စကောကရင်ပြက္ခဒိန်ရဲ့ စတုတ္ထမြောက်လ ဖြစ်ပါတယ်။

စကောကရင်လူမျိုးတို့ရဲ့ ခလီး ဆိုတဲ့ အခေါ် အဝေါ်ဟာ အစေ့ လို့ အဓိပ္ပါယ်ရပါတယ်။

အဆိုပါလမှာ ကရင်လူမျိုးတို့ဟာ မြေပြင်ပေါ် မှာဖြန့်ခင်းပြီးနေလှမ်းထားတဲ့ သစ်ပင်၊သစ်မြစ်၊ သစ်ကိုင်းခြောက်များကို မီးနဲ့ရှို့ပစ်ပြီးတဲ့နောက် ပြောင်တလင်းခါသွားတဲ့မြေကွက်ပေါ်မှာသစ်စေ့ များကိုစိုက်ပျိုးကြပါတယ်။ ဒါကြောင့် အဆိုပါ လကို လားခလီး(သစ်စေ့များကိုစိုက်ပျိုးတဲ့လ) လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

လားခလီး ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၂၉-ရက်စီပါရှိပါတယ်။

(၀၅) ဒဒေညား

စကောကရင်ပြက္ခဒိန်ရဲ့ ပဥ္စမမြောက်လ ဖြစ်ပါတယ်။

အဆိုပါလမှာ စကောကရင်လို ဖောဒေညား လို့ ခေါ်တဲ့ နှင်းပန်း များဖူးပွင့်လေ့ရှိပါတယ်။ ဒါကြောင့် ၎င်းလကို ဒေညား လို့ ခေါ်ဝေါ်ခြင်း ဖြစ်ပါတယ်။

ဒေညား ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၃၀-ရက်စီပါရှိပါတယ်။

(၀၆) လားနွီး

စကောကရင်ပြက္ခဒိန်ရဲ့ ဆဋ္ဌမမြောက်လ ဖြစ်ပါတယ်။

အဆိုပါလဟာ လေမိုးသည်းထန်တဲ့လ ဖြစ်ပါတယ်။လေဒဏ်မိုးဒဏ်ကြောင့်သစ်ပင်သစ်ကိုင်းများ ကိုင်းညွတ်လူးလွန့်နေလေ့ရှိတဲ့လ ဖြစ်ပါတယ်။လေဒဏ်မိုးဒဏ်ကြောင့်သစ်ပင်သစ်ကိုင်းများကိုင်းညွတ်လူးလွန့်နေခြင်းကို စကောကရင်လို တနွီး လို့ခေါ်ပါတယ်။ ဒါကြောင့် တနွီး ဆိုတဲ့ အခေါ်အဝေါ်မှာပါရှိတဲ့ နွီး ဆိုတဲ့ စာလုံးကို အကြောင်းပြုပြီး အဆိုပါလကို လားနွီး လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

လားနွီး ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၂၉-ရက်စီပါရှိပါတယ်။

(၀၇) လားဃှို့

စကောကရင်ပြက္ခဒိန်ရဲ့ သတ္တမမြောက်လ ဖြစ်ပါတယ်။

ကရင်လူမျိုးတို့ ပျားဖွတ်လေ့ရှိတဲ့လ ဖြစ်ပါတယ်။

အဆိုပါလဟာလည်း လေမိုးသည်းထန်တဲ့လ ဖြစ်ပါတယ်။ လေဒဏ်မိုးဒဏ်ကြောင့် ပျားအုံများပင်လျှင် မြေပြင်ပေါ်သို့ပြုတ်ကျလေ့ရှိတဲ့လ ဖြစ်ပါတယ်။ အဆိုပါလမှာ ကရင်လူမျိုးတို့ဟာ မြေပြင်ပေါ်မှာ ပြုတ်ကျနေတဲ့ ပျားအုံများကို လိုက်လံရှာဖွေကောက်ယူပြီး ပျားရည်နဲ့ စကောကရင်လို ကနဲဃှို့ လို့ခေါ်တဲ့ ပျားဖယောင်း များကို စုဆောင်းလေ့ရှိပါတယ်။ ဒါကြောင့် ကနဲဃှို့ ဆိုတဲ့ အခေါ်အဝေါ်မှာပါရှိတဲ့ ဃှို့ ဆိုတဲ့ စာလုံးကို အကြောင်းပြုပြီး အဆိုပါလကို လားဃှို့ (ပျားလ (ဝါ) ပျားဖယောင်းများကို စုဆောင်းတဲ့လ)လို့ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

လားဃှို့ဟာ နှစ်ငယ်မှာ ၃၀-ရက်ပါရှိပြီး နှစ်ကြီး(ဝါထပ်နှစ်)မှာ ၆၀-ရက်ပါရှိပါတယ်။

(၀၈) လားခု

စကောကရင်ပြက္ခဒိန်ရဲ့ အဋ္ဌမမြောက်လ ဖြစ်ပါတယ်။

စကောကရင်လူမျိုးတို့ရဲ့ ခု ဆိုတဲ့ အခေါ်အဝေါ်ဟာ ဖွတ် သတ္တဝါလို့ အဓိပ္ပါယ်ရပါတယ်။

အဆိုပါလဟာ လေမိုးသည်းထန်ပြီး ရေကြီးတဲ့လဖြစ်ပါတယ်။ ရေကြီးခြင်းကြောင့် စကောကရင်လို ခု လို့ခေါ်တဲ့ဖွတ်သတ္တဝါများကုန်းပေါ်တက်ပြီး ဥလေ့ရှိတဲ့လဖြစ်တဲ့အတွက် အဆိုပါလကို လားခု(ဖွတ်လ(ဝါ)ဖွတ်ဥတဲ့လ)လို့ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

လားခု ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၂၉-ရက်စီပါရှိပါတယ်။

(၀၉) ဆိမူ

စကောကရင်ပြက္ခဒိန်ရဲ့နဝမမြောက်လ ဖြစ်ပါတယ်။

စကောကရင်လူမျိုးတို့ရဲ့ ဆိ ဆိုတဲ့ စာလုံးဟာ သေးငယ်ခြင်း လို့အဓိပ္ပါယ်ရပြီး မူ ဆိုတဲ့ စာလုံးကတော့ နေ လို့အဓိပ္ပါယ်ရပါတယ်။

မိုးနှောင်းပိုင်းကာလအထက်မိုးကောင်းကင်မှာရှိတဲ့ မိုးတိမ်တိုက်တွေကြားက ထွန်းလင်းနေတဲ့နေကို အနည်းငယ်ပြန်ပြီးမြင်ကြရတဲ့လ ဖြစ်တဲ့အတွက် အဆိုပါလကို ဆိမူ လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

ဆိမူ ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၃၀-ရက်စီပါရှိပါတယ်။

(၁၀) ဆိဆာ

စကောကရင်ပြက္ခဒိန်ရဲ့ ဒသမမြောက်လ (ဆယ်လမြောက်လ)ဖြစ်ပါတယ်။

စကောကရင်လူမျိုးတို့ရဲ့ ဆိ ဆိုတဲ့စာလုံးဟာ သေးငယ်ခြင်း လို့ အဓိပ္ပါယ်ရပြီး ဆာ ဆိုတဲ့ စာလုံးကတော့ ကြယ် လို့ အဓိပ္ပါယ်ရပါတယ်။

မိုးနှောင်းပိုင်းကာလအထက်မိုးကောင်းကင်မှာ ရှိတဲ့ မိုးတိမ်တိုက်တွေကြားက ထွန်းလင်းနေတဲ့ ကြယ်တွေကိုအနည်းငယ်ပြန်ပြီးမြင်ကြရတဲ့လ ဖြစ်တဲ့အတွက် အဆိုပါလကို ဆိဆာ လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

ဆိဆာ ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၂၉-ရက်စီပါရှိပါတယ်။

(၁၁) လားနော

စကောကရင်ပြက္ခဒိန်ရဲ့ ဧကဒသမမြောက်လ (၁၁-လမြောက်လ)ဖြစ်ပါတယ်။

အဆိုပါလမှာ စကောကရင်လို နော လို့ခေါ်တဲ့ အဖြူရောင်ရှိတဲ့နှမ်းတစ်မျိုးပွင့်သီးတဲ့လဖြစ်ပါ တယ်။ ကရင်လူမျိုးတို့ဟာ အဆိုပါ နှမ်းဖြူကို ထောင်းပြီး ကောက်ညှင်း (ခေါပြင်) တို့နဲ့အတူ စားသုံးလေ့ရှိတဲ့လဖြစ်တဲ့အတွက် အဆိုပါလကို လားနော လို့ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

လားနှော ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၃၀-ရက်စီပါရှိပါတယ်။

(၁၂) လားပလူ

စကောကရင်ပြက္ခဒိန်ရဲ့ ဒွါဒသမမြောက်လ (၁၂-လမြောက်လ)ဖြစ်ပါတယ်။

စကောကရင်လူမျိုးတို့ရဲ့ ပလူ ဆိုတဲ့ ဝေါဟာရဟာ တမလွန်ဘဝသို့ရောက်ရှိသွားတဲ့သူများ လို့ အဓိပ္ပါယ်ရပါတယ်။

ကရင်လူမျိုးတို့ဟာ ၎င်းတို့ရဲ့လုပ်ငန်းကာလအတွင်း သေဆုံးသွားတဲ့သူတို့ရဲ့ ရုပ်အလောင်းများကို ပြန်လည်တူးဖော်ပြီး မီးရှို့ပစ်လေ့ရှိတဲ့လဖြစ်တဲ့အတွက် အဆိုပါလကို စကောကရင်လို လားပလူ(တမလွန်ဘဝသို့ရောက်ရှိသွားတဲ့သူတို့နဲ့သက်ဆိုင်တဲ့လ)လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

လားပလူ ဟာ နှစ်ငယ် နဲ့ နှစ်ကြီး(ဝါထပ်နှစ်) နှစ်ခုစလုံးမှာ ၂၉-ရက်စီပါရှိပါတယ်။



# ကိုင်ပီး(ကဲ၂ပံဧ)

ပိုးကရင်(အနောက်)စာမှာ ဗျည်း(လံၚမ့ၚဖျိ၂), သရ(လံၚလူဒ်ါ), အသတ်(လံၚခဒိဒ), သင်္ကေတ အက္ခရာ(လံၚဆၖနဲ၂) တို့ပါရှိပါတယ်။

ပိုးကရင်(အနောက်)စာမှာ အသတ်(၉)လုံး ပါရှိပြီး ဒုတိယမြောက် အသတ် ကို ကိုင်ဆိတ်(ကဲ၂ဆံဒ)ဟူ၍လည်းကောင်း၊ ကိုင်ပေ(ကဲ၂ပ့ါ)ဟူ၍လည်းကောင်း၊ ကိုင်ပီး(ကဲ၂ပံဧ)ဟူ၍ လည်းကောင်းခေါ်ဝေါ်ကြပါတယ်။

ကိုင်ဆိတ် ဆိုတဲ့ အမည်မှာပါရှိတဲ့ ကိုင်(ကဲ၂) ဆိုတဲ့စာလုံးဟာ ကောက်သည်လို့အဓိပ္ပါယ်ရပြီး ဆိတ်(ဆံဒ)ဆိုတဲ့ စာလုံးဟာ သေးငယ်သည် လို့ အဓိပ္ပါယ်ရပါတယ်။ ကိုင်ဆိတ် ဆိုတဲ့ အခေါ် အဝေါ်ဟာ ရောဝတီမြစ်ဝကျွန်းပေါ်ဒေသမှာ နေထိုင်ကြတဲ့ ပိုးကရင်(အနောက်)လူမျိုးတို့ရဲ့ ဒေသသုံးဘာသာစကားနဲ့လိုက်လျောညီထွေမှုရှိ တဲ့အခေါ်အဝေါ်ဖြစ်ပါတယ်။

ကိုင်ပေ ဆိုတဲ့ အမည်မှာပါရှိတဲ့ ကိုင်(ကဲ၂) ဆိုတဲ့စာလုံးဟာ ကောက်သည်လို့အဓိပ္ပါယ်ရပြီး ပေ(ပ့ါ)ဆိုတဲ့ စာလုံးဟာ သေးငယ်သည် လို့ အဓိပ္ပါယ်ရပါတယ်။ ကိုင်ပေ ဆိုတဲ့အခေါ်

# ကိုင်ပီး(ကဲ၂့ပံဧ)



ပိုးကရင်(အနောက်)စာမှာ ဗျည်း(လံၤမ့ၤဖျိၣ့), သရ(လံၤလူဒီၢ), အသတ်(လံၤခဒိၣ), သင်္ကေတ အက္ခရာ(လံၤဆၢနဲ၂့) တို့ပါရှိပါတယ်။

ပိုးကရင်(အနောက်)စာမှာ အသတ်(၉)လုံး ပါရှိပြီး ဒုတိယမြောက် အသတ် ကို ကိုင်ဆိတ်(ကဲ၂့ဆံၣ)ဟူ၍လည်းကောင်း၊ ကိုင်ပေ(ကဲ၂့ပ့ၢ) ဟူ၍လည်းကောင်း၊ ကိုင်ပီး(ကဲ၂့ပံဧ)ဟူ၍ လည်းကောင်းခေါ်ဝေါ်ကြပါတယ်။

ကိုင်ဆိတ် ဆိုတဲ့ အမည်မှာပါရှိတဲ့ ကိုင်(ကဲ၂့) ဆိုတဲ့စာလုံးဟာ ကောက်သည်လို့အဓိပ္ပါယ်ရပြီး ဆိတ်(ဆံၣ)ဆိုတဲ့ စာလုံးဟာ သေးငယ်သည် လို့ အဓိပ္ပါယ်ရပါတယ်။ ကိုင်ဆိတ် ဆိုတဲ့ အခေါ် အဝေါ်ဟာ ဧရာဝတီမြစ်ဝကျွန်းပေါ်ဒေသမှာ နေထိုင်ကြတဲ့ ပိုးကရင်(အနောက်)လူမျိုးတို့ရဲ့ ဒေသသုံးဘာသာစကားနဲ့လိုက်လျောညီထွေမှုရှိ တဲ့အခေါ်အဝေါ်ဖြစ်ပါတယ်။

ကိုင်ပေ ဆိုတဲ့ အမည်မှာပါရှိတဲ့ ကိုင်(ကဲ၂့) ဆိုတဲ့စာလုံးဟာ ကောက်သည်လို့အဓိပ္ပါယ်ရပြီး ပေ(ပ့ၢ)ဆိုတဲ့ စာလုံးဟာ သေးငယ်သည် လို့ အဓိပ္ပါယ်ရပါတယ်။ ကိုင်ပေ ဆိုတဲ့အခေါ်

အဝေါ်ဟာ မွန်ပြည်နယ်နဲ့ ကရင်ပြည်နယ်တို့မှာ နေထိုင်ကြတဲ့ ပိုးကရင်(အရှေ့)လူမျိုးတို့ရဲ့ ဒေသသုံးဘာသာစကားနဲ့လိုက်လျောညီထွေမှုရှိတဲ့ အခေါ်အဝေါ်ဖြစ်ပါတယ်။

ဧရာဝတီမြစ်ဝကျွန်းပေါ်ဒေသမှာ နေထိုင်ကြတဲ့ ပိုးကရင်(အနောက်)လူမျိုး အချို့ဟာ ဖော်ပြပါ ကိုင်ဆိတ်၊ ကိုင်ပေ ဆိုတဲ့ အသတ် ကို ကိုင်ပီး လို့ခေါ်ဝေါ်ကြပါတယ်။ အဆိုပါ ကိုင်ပီး ဆိုတဲ့အမည်မှာပါရှိတဲ့ ကိုင်(ကဲ၂)ဆိုတဲ့စာလုံးရဲ့ အဓိပ္ပါယ်ကိုသိရှိကြပေမယ့် ပီး(ပံဧ) ဆိုတဲ့ စာလုံးရဲ့ဆိုလိုရင်းအဓိပ္ပါယ်ကိုတော့ ဘယ်သူမှ ဂဃနဏ မပြောနိုင်ကြသေးပါဘူး။

ဒါကြောင့် ဧရာဝတီမြစ်ဝကျွန်းပေါ်ဒေသမှာ နေထိုင်ကြတဲ့ ပိုးကရင်(အနောက်)လူမျိုးများ အနေနဲ့ ကိုင်ဆိတ်၊ ကိုင်ပေ၊ ကိုင်ပီး ဆိုတဲ့ ပိုးကရင်(အနောက်)စာမှာပါရှိတဲ့ဒုတိယမြောက် အသတ်ရဲ့အခေါ်အဝေါ်သုံးမျိုးအနက် ဆိုလိုရင်း အဓိပ္ပါယ်ကို ဂဃနဏ သိရှိနိုင်ပြီး မိမိတို့ရဲ့ဒေသသုံးဘာသာစကားနဲ့လည်းလိုက်လျောညီထွေမှုရှိတဲ့ ကိုင်ဆိတ် ဆိုတဲ့အမည်ကိုသာ ရွေးချယ်ခေါ်ဝေါ်သုံးစွဲသင့်ပါကြောင်းတင်ပြအပ်ပါတယ်။

# ပိုးကရင်သင်္ကေတအက္ခရာအကြောင်း သိကောင်းစရာ

-------------------

ယနေ့ ပိုးကရင်မှုနယ်ပယ်မှာ ◌ၠ ◌ြ ◌ျ ◌ွ စတဲ့ အက္ခရာလေးလုံးနဲ့ ယှဥ်တွဲရေးသားထားတဲ့ ပိုးကရင်ဗျည်းတွဲတွေနဲ့ဗျည်းတွဲပါစာလုံးတွေကို ပိုးကရင်စာပေတွေမှာ အမြဲလိုလို မြင်တွေ့နေကြရပေမယ့် အဆိုပါအက္ခရာလေးလုံးရဲ့အမျိုးအစား၊ အမည်နာမနဲ့အသံထွက်များကိုတော့ ဂဏာနဏာ သိသူနည်းပါတယ်။ အဆိုပါ အက္ခရာလေးလုံးနဲ့ သက်ဆိုင်တဲ့အကြောင်းအရာများကို ပိုးကရင်သင်ပုန်းကြီးစာအုပ်တွေထဲမှာလည်း ရေးသားဖော်ပြထားခြင်းမရှိပါဘူး။ အဆိုပါ အက္ခရာလေးလုံးကို ဗျည်းတွဲလို့ အလွယ်တကူ ခေါ်ဝေါ်သုံးနှုန်းနေကြတာတွေကိုလည်း တွေ့မြင်နေရပါတယ်။ တကယ်တော့ အဆိုပါ အက္ခရာ လေးလုံးဟာ ဗျည်းတွဲများမဟုတ်ပါဘူး။ ပိုးကရင်လို လံၤဆၢနဲ၂့ လို့ခေါ်တဲ့ ပိုးကရင်သင်္ကေတအက္ခရာများပဲဖြစ်ပါတယ်။

အမေရိကန် နှစ်ခြင်းခရစ်ယာန် သာသာနာပြုဆရာတော်တစ်ပါးဖြစ်တဲ့ ဒေါက်တာအယ်(လ) ဘရေတန်ဟာ ခရစ်သက္ကရာဇ် ၁၈၅၂ ခုနှစ်မှာ ခရစ်ယာန်သာသနာတော် ပြန့်ပွားရေးကို အထောက်အကူပြုနိုင်ရေးအတွက် ဗမာဗျည်း၊

သရ၊အသတ်နဲ့သင်္ကေတအက္ခရာတို့ကို အခြေခံတဲ့ ပိုးကရင်စာတစ်မျိုးကိုတီထွင်ပေးခဲ့ပါတယ်။ အဆိုပါ ပိုးကရင်စာမှာ ဗျည်း၊ သရ၊ အသတ် နဲ့ သင်္ကေတအက္ခရာများပါဝင်ပါတယ်။

ဒေါက်တာအယ်(လ)ဘရေတန်ဟာ အဆိုပါ ပိုးကရင်စာကိုခရစ်ယာန်သာသနာတော်ပြန့်ပွားရေးလုပ်ငန်းရပ်များမှာ အသုံးပြုခဲ့တဲ့အတွက် အဆိုပါ ပိုးကရင်စာကို ခရစ်ယာန်စာလို့မှတ်ယူပြီး လက်မခံတဲ့ ကရင်လူမျိုးများလည်း ရှိခဲ့ပါတယ်။ ယခုအခါမှာ အဆိုပါ ပိုးကရင်စာကို ဧရာဝတီတိုင်း နဲ့ ရန်ကုန်တိုင်းမှာနေထိုင်ကြတဲ့ ပိုးကရင်လူမျိုးအားလုံးနဲ့ ကရင်ပြည်နယ်၊ မွန်ပြည်နယ် နဲ့ တနင်္သာရီတိုင်းတို့မှာ နေထိုင်ကြတဲ့ ခရစ်ယာန်ဘာသာဝင် ပိုးကရင်လူမျိုးများက အသုံးပြုလျက်ရှိပါတယ်။

က, ခ, ဂ, ဃ, င စသည့် လုံးချင်းဗျည်း တို့နှင့် ယပင့်, ရရစ်, ဝဆွဲ, ဟထိုး စသည့် သင်္ကေတ အက္ခရာတို့ယှဉ်တွဲထားသော ဗျည်း-အက္ခရာတွဲကို ဗျည်းတွဲဟုခေါ်သည် လို့ဆိုတဲ့ ရေးသားဖော်ပြချက်နဲ့ In the combination of consonants, without a vowel sound intervening, the second consonant is marked by a symbol which is joined to the character representing

the first consonant လို့ဆိုတဲ့ ဗျည်းနဲ့ သင်္ကေတအက္ခရာတို့နဲ့သက်ဆိုင်တဲ့ ရေးသားဖော်ပြချက်နှစ်ရပ်ကို အထက်ပါအတိုင်းတွေ့ရှိရပါတယ်။

ဗမာသင်္ကေတအက္ခရာ နဲ့ ပိုးကရင်သင်္ကေတအက္ခရာတို့ရဲ့ သဘောသဘာဝများဟာ တစ်ခုနဲ့ တစ်ခုတူညီကြတဲ့အတွက် ဗမာသင်္ကေတအက္ခရာများနဲ့ပိုးကရင်သင်္ကေတအက္ခရာများကို ယှဉ်တွဲလေ့လာခြင်းဖြင့် ပိုးကရင်သင်္ကေတအက္ခရာများရဲ့သဘောသဘာဝတို့ကိုလွယ်ကူစွာနားလည်သဘောပေါက်နိုင်ကြမှာဖြစ်ပါတယ်။

ဗမာစာမှာ ယပင့်,ရရစ်,ဝဆွဲ,ဟထိုး လို့ခေါ်တဲ့ သင်္ကေတအက္ခရာလေးလုံးရှိပါတယ်။ သင်္ကေတအက္ခရာ ျ ကို ယပင့် လို့ခေါ်ပါတယ်။ ယ ပက်လက် လို့ခေါ်တဲ့ ဗမာဗျည်း ကို ကိုယ်စားပြုပါတယ်။ သင်္ကေတအက္ခရာ ြ ကို ရရစ် လို့ခေါ်ပါတယ်။ ရကောက် လို့ခေါ်တဲ့ ဗမာဗျည်း ကို ကိုယ်စားပြုပါတယ်။ သင်္ကေတအက္ခရာ ွ ကို ဝဆွဲ လို့ခေါ်ပါတယ်။ ဝ လို့ခေါ်တဲ့ ဗမာဗျည်း ကို ကိုယ်စားပြုပါတယ်။ သင်္ကေတအက္ခရာ ှ ကို ဟထိုး လို့ခေါ်ပါတယ်။ ဟ လို့ခေါ်တဲ့ ဗမာဗျည်း ကို ကိုယ်စားပြုပါတယ်။

ထိုနည်းတူ ပိုးကရင်စာမှာလည်း ၞ ြ ျ ွ လို့ခေါ်တဲ့ သင်္ကေတအက္ခရာ လေးလုံးရှိပါတယ်။

သင်္ကေတအက္ခရာ ွ ကို ယ လို့ခေါ်ပါတယ်။ ယ လို့ခေါ်တဲ့ ပိုးကရင်ဗျည်း ကို ကိုယ်စားပြုပါ တယ်။ သင်္ကေတအက္ခရာ ြ ကို ရ လို့ခေါ်ပါ တယ်။ ရ လို့ခေါ်တဲ့ ပိုးကရင်ဗျည်း ကို ကိုယ်စား ပြုပါတယ်။ သင်္ကေတအက္ခရာ ျ ကို လ လို့ ခေါ်ပါတယ်။ လ လို့ခေါ်တဲ့ ပိုးကရင်ဗျည်း ကို ကိုယ်စားပြုပါတယ်။ သင်္ကေတအက္ခရာ ွ ကို ဝ လို့ခေါ်ပါတယ်။ ဝ လို့ခေါ်တဲ့ ပိုးကရင်ဗျည်း ကို ကိုယ်စားပြုပါတယ်။

ဗမာသင်္ကေတအက္ခရာများရဲ့ အမည် နဲ့ အသံ ထွက်များကတော့ အောက်ပါအတိုင်းဖြစ်ပါ တယ်။

| စဉ် | သင်္ကေတအက္ခရာ | အမည် | အသံထွက် |
|---|---|---|---|
| ၁။ | ျ | ယပင့် | ယ |
| ၂။ | ြ | ရရစ် | ရ |
| ၃။ | ွ | ဝဆွဲ | ဝ |
| ၄။ | ှ | ဟထိုး | ဟ |

ဗမာသင်္ကေတအက္ခရာများရဲ့ အမည် နဲ့ အသံ ထွက်များဟာ အထက်မှဖော်ပြထားတဲ့အတိုင်း တစ်ခုနဲ့တစ်ခုမတူညီကြပါ။

ပိုးကရင်သင်္ကေတအက္ခရာများရဲ့ အမည် နဲ့ အသံထွက်များကတော့ အောက်ပါအတိုင်းဖြစ်ပါတယ်။

| စဥ် | သင်္ကေတအက္ခရာ | အမည် | အသံထွက် |
|---|---|---|---|
| ၁။ | ◌ှ | ယ | ယ |
| ၂။ | ◌ြ | ရ | ရ |
| ၃။ | ◌ျ | လ | လ |
| ၄။ | ◌ွ | ဝ | ဝ |

ပိုးကရင်သင်္ကေတအက္ခရာများရဲ့ အမည်နဲ့ အသံထွက်များဟာ အထက်မှာဖော်ပြထားတဲ့ အတိုင်းတစ်ခုနဲ့တစ်ခုတူညီကြပါတယ်။

ဗမာစာမှာ ဗျည်းတစ်လုံးကို သင်္ကေတအက္ခရာ တစ်လုံးနဲ့ပေါင်းစပ်ပေးလိုက်တဲ့အခါ ဗျည်းတွဲ တစ်တွဲကိုရရှိပါတယ်။

| စဥ် | ဗျည်း | + | သင်္ကေတအက္ခရာ | = | ဗျည်းတွဲ |
|---|---|---|---|---|---|
| ၁။ | က | + | ◌ျ | = | ကျ |
| ၂။ | က | + | ◌ြ | = | ကြ |
| ၃။ | က | + | ◌ွ | = | ကွ |
| ၄။ | မ | + | ◌ှ | = | မှ |

ပိုးကရင်စာမှာလည်းဗျည်းတစ်လုံးကိုသင်္ကေတအက္ခရာတစ်လုံးနဲ့ ပေါင်းစပ်ပေးလိုက်တဲ့အခါ ဗျည်းတွဲတစ်တွဲကိုရရှိပါတယ်။

---

| စဉ် | ဗျည်း | + | သင်္ကေတအက္ခရာ | = | ဗျည်းတွဲ |
|---|---|---|---|---|---|
| ၁။ | က | + | ◌ၠ | = | ကၠ |
| ၂။ | က | + | ◌ြ | = | ကြ |
| ၃။ | က | + | ◌ျ | = | ကျ |
| ၄။ | က | + | ◌ွ | = | ကွ |

ဗမာဗျည်းတွဲ တစ်တွဲကို သရ တစ်လုံး (သို့မဟုတ်) အသတ် တစ်လုံးနဲ့ ပေါင်းစပ်ပေးလိုက်တဲ့အခါ ဗျည်းတွဲပါ စာလုံးတစ်လုံးကို ရရှိပါတယ်။

---

| စဉ် | ဗျည်းတွဲ | + သရ | + အသတ် | = | စာလုံး |
|---|---|---|---|---|---|
| ၁။ | ကျ | + ◌ား | | = | ကျား |
| ၂။ | ကြ | + ◌ီး | | = | ကြီး |
| ၃။ | ခွ | | + က် | = | ခွက် |
| ၄။ | မှ | | + တ် | = | မှတ် |

ပိုးကရင်ဗျည်းတွဲ တစ်တွဲကို   သရ တစ်လုံး (သို့မဟုတ်) အသတ် တစ်လုံးနဲ့ ပေါင်းစပ်ပေးလိုက်တဲ့အခါ ဗျည်းတွဲပါ စာလုံးတစ်လုံးကို ရရှိပါတယ်။

-------------------------------------------------------

စဥ် ဗျည်းတွဲ + သရ + အသတ် = စာလုံး

-------------------------------------------------------

| | | | | | | |
|---|---|---|---|---|---|---|
| ၁။ | ကှ | + | ◌ါ | | = | ကှါ |
| ၂။ | ကြ | + | ◌ံ | | = | ကြံ |
| ၃။ | ကျ | | + | ◌ဧ | = | ကျဧ |
| ၄။ | ကွ | | + | ◌s | = | ကွs |

ပိုးကရင်ဗျည်းတွဲ တစ်တွဲကို   သရ-အသတ်တွဲ တစ်တွဲနဲ့ ပေါင်းစပ်ပေးလိုက်တဲ့အခါ ဗျည်းတွဲပါ စာလုံးတစ်လုံးကိုရရှိပါတယ်။

-------------------------------------------------------

စဥ် ဗျည်းတွဲ + သရ-အသတ်တွဲ = စာလုံး

-------------------------------------------------------

| | | | | | |
|---|---|---|---|---|---|
| ၁။ | ကှ | + | ◌ဲ၊ | = | ကှဲ၊ |
| ၂။ | ကျ | + | ◌ိဧ့ | = | ကျိဧ့ |
| ၃။ | ကြ | + | ◌ျံs | = | ကြျံs |
| ၄။ | ပွ | + | ◌ံဧ့ | = | ပွံဧ့ |

ဗျည်းတွဲပါဝင်တဲ့ ဗမာစာလုံးတစ်လုံးကို အသံထွက်အောင်ပေါင်းဖတ်တဲ့အခါမှာ အဆိုပါ ဗမာစာလုံးမှာပါဝင်တဲ့ ဗျည်း၊ သင်္ကေတအက္ခရာ၊ သရ၊ အသတ် နဲ့ အသံထွက် အားလုံး ပါဝင်အောင် ပေါင်းဖတ်ကြရပါတယ်။ ဒါကြောင့် အဆိုပါ ဗမာစာလုံးမှာပါဝင်တဲ့ ဗျည်း၊ သင်္ကေတအက္ခရာ၊ သရ၊ အသတ် နဲ့ အသံထွက် အားလုံးကို ဂဃနဏ သိရှိနိုင်ကြပါတယ်။

ဥပမာ-

(၁)ဗျည်းတွဲပါဝင်တဲ့ ကျောင်း ဆိုတဲ့ ဗမာစာလုံးကို သဝေထိုး,ကကြီး,ယပင့်,ရေးချ,သေတ်,ဝတ်ဆံနှစ်လုံးပေါက်, ကျောင်း လို့ ပေါင်းဖတ်ကြရပါတယ်။

(၂)ဗျည်းတွဲပါဝင်တဲ့ ပြုံး ဆိုတဲ့ ဗမာစာလုံးကို ပစောက်,ရရစ်, သေးသေးတင်, တစ်ချောင်းငင်,ဝတ်ဆံနှစ်လုံးပေါက်, ပြုံး လို့ ပေါင်းဖတ်ကြရပါတယ်။

(၃)ဗျည်းတွဲပါဝင်တဲ့ မွေး ဆိုတဲ့ ဗမာစာလုံးကို သဝေထိုး,မ,ဝဆွဲ,ဝတ်ဆံနှစ်လုံးပေါက်, မွေး လို့ ပေါင်းဖတ်ကြရပါတယ်။

(၄)ဗျည်းတွဲပါဝင်တဲ့ လှေ ဆိုတဲ့ ဗမာစာလုံးကို သဝေထိုး,လ,ဟထိုး,လှေ လို့ ပေါင်းဖတ်ကြရပါတယ်။

ထိုနည်းတူစွာ ဗျည်းတွဲပါဝင်တဲ့ ပိုးကရင်စာလုံး တစ်လုံးကိုအသံထွက်အောင်ပေါင်းဖတ်တဲ့အခါ မှာ အဆိုပါ ပိုးကရင်စာလုံးမှာပါဝင်တဲ့ ဗျည်း၊ သင်္ကေတအက္ခရာ၊ သရ၊ အသတ် နဲ့ အသံထွက် အားလုံး ပါဝင်အောင် ပေါင်းဖတ်ကြရမှာ ဖြစ်ပါ တယ်။ သို့မှသာ အဆိုပါ ပိုးကရင်စာလုံးမှာ ပါဝင်တဲ့ ဗျည်း၊သင်္ကေတအက္ခရာ၊သရ၊အသတ် နဲ့ အသံထွက်အားလုံးကို ဂဃနဏ သိရှိနိုင်ကြ မှာဖြစ်ပါတယ်။

ဥပမာ-

(၁)ဗျည်းတွဲပါဝင်တဲ့ ကှဲုၚ ဆိုတဲ့ ပိုးကရင်စာလုံး ကို က,ယ,အဲ,ကိုင်ထန့်,ကျိုက် လို့ ပေါင်းဖတ် ကြရမှာဖြစ်ပါတယ်။ သို့မှသာ ◌ှု ဆိုတဲ့ ပိုးကရင် သင်္ကေတအက္ခရာရဲ့ အမျိုးအစား၊အမည်နာမနဲ့ အသံထွက်တို့ကို ဂဃနဏ သိရှိနိုင်ကြမှာဖြစ် တယ်။

ဒါပေမယ့် ယနေ့ ပိုးကရင်လူမျိုးအများစုဟာ ကှဲုၚ ဆိုတဲ့ ပိုးကရင်စာလုံးကို ကျ,အဲ,ကိုင်ထန့်, ကျိုက် လို့ ပေါင်းဖတ်နေကြတဲ့အတွက် ◌ှု ဆိုတဲ့ ပိုးကရင်သင်္ကေတအက္ခရာရဲ့ အမျိုးအစား၊ အမည်နာမနဲ့ အသံထွက် တို့ကို ဂဃနဏ မသိ ကြခြင်းပဲဖြစ်ပါတယ်။

(၂)ဗျည်းတွဲပါဝင်တဲ့ ပြ်ဒ ဆိုတဲ့ ပိုးကရင်စာလုံးကို ပ,ရ,အီး,ကိုင်ကောင်, ပရီး လို့ ပေါင်းဖတ်ကြရမှာဖြစ်ပါတယ်။ သို့မှသာ ◌ြ ဆိုတဲ့ ပိုးကရင်သင်္ကေတအက္ခရာရဲ့ အမျိုးအစား၊အမည်နာမနဲ့အသံထွက်တို့ကို ဂဃနဏ သိရှိနိုင်ကြမှာဖြစ်ပါတယ်။

ဒါပေမယ့် ယနေ့ ပိုးကရင်လူမျိုးအများစုဟာ ပြ်ဒ ဆိုတဲ့ ပိုးကရင်စာလုံးကို ပြ,အီး,ကိုင်ကောင်, ပရီး လို့ ပေါင်းဖတ်နေကြတဲ့အတွက် ◌ြ ဆိုတဲ့ ပိုးကရင်သင်္ကေတအက္ခရာရဲ့ အမျိုးအစား၊ အမည်နာမ နဲ့ အသံထွက် တို့ကို ဂဃနဏ မသိကြခြင်းပဲဖြစ်ပါတယ်။

(၃)ဗျည်းတွဲပါဝင်တဲ့ ဖျိဒ့ ဆိုတဲ့ ပိုးကရင်စာလုံးကို ဖ,လ,အိုး,ကိုင်ကောင်,ငါ့သီ ဖလုံး လို့ ပေါင်းဖတ်ကြရမှာဖြစ်ပါတယ်။ သို့မှသာ ◌ျ ဆိုတဲ့ ပိုးကရင်သင်္ကေတအက္ခရာရဲ့ အမျိုးအစား၊ အမည်နာမနဲ့အသံထွက်တို့ကို ဂဃနဏ သိရှိနိုင်ကြမှာဖြစ်ပါတယ်။

ဒါပေမယ့် ယနေ့ ပိုးကရင်လူမျိုးအများစုဟာ ဖျိဒ့ ဆိုတဲ့ ပိုးကရင်စာလုံးကို ဖလ,အိုး, ကိုင်ကောင်,ငါ့သီ, ဖလုံး လို့ ပေါင်းဖတ်နေကြတဲ့ အတွက် ◌ျ ဆိုတဲ့ ပိုးကရင်သင်္ကေတအက္ခရာရဲ့

အမျိုးအစား၊ အမည်နာမ နဲ့ အသံထွက်တို့ကို ဂဃနဏ မသိကြခြင်းပဲဖြစ်ပါတယ်။

( ၄)ဗျည်းတွဲပါဝင်တဲ့ ကွဧ ဆိုတဲ့ ပိုးကရင်စာလုံးကို က,ဝ,ကိုင်ကောင်, ကွား လို့ ပေါင်းဖတ်ကြရမှာ ဖြစ်ပါတယ်။ သို့မှသာ ွ ဆိုတဲ့ ပိုးကရင်သင်္ကေတအက္ခရာရဲ့ အမျိုးအစား၊အမည်နာမနဲ့ အသံထွက်တို့ကို ဂဃနဏ သိရှိနိုင်ကြမှာဖြစ်ပါတယ်။

ဒါပေမယ့် ယနေ့ ပိုးကရင်လူမျိုးအများစုဟာ ကွဧ ဆိုတဲ့ ပိုးကရင်စာလုံးကို ကွ,ကိုင်ကောင်, ကွား လို့ ပေါင်းဖတ်နေကြတဲ့အတွက် ွ ဆိုတဲ့ ပိုးကရင်သင်္ကေတအက္ခရာရဲ့ အမျိုးအစား၊ အမည်နာမ နဲ့ အသံထွက် တို့ကို ဂဃနဏ မသိကြခြင်းပဲဖြစ်ပါတယ်။

အမှန်ကိုမြင်၍အမြင်မှန်ကြပါစေ။

# ပြာသို-တပို့တွဲ ဖြစ်စဉ်အကျဉ်း

၁၉၃၇-ခုနှစ်မှာ ကရင်လူမျိုးတို့ဟာ ကရင်အမျိုးသားသီချင်း၊ကရင်အမျိုးသားအလံတော်၊ ကရင်အမျိုးသားနှစ်သစ်ကူးနေ့တို့ကို ဗြိတိသျှအစိုးရထံမှတောင်းဆိုရရှိခဲ့ပြီး ၁၉၃၈-ခုနှစ်မှစတင်ပြီး ကရင်နှစ်သစ်ကူးပွဲတော်ကို နှစ်စဉ်ပြာသိုလဆန်း(၁)ရက်မှာစည်ကားသိုက်မြိုက်စွာကျင်းပခဲ့ကြပါတယ်။

KNU-ဥက္ကဋ္ဌ စောဘဦးကြီးကျဆုံးသွားခဲ့ပြီးတဲ့နောက် မြစ်ဝကျွန်းပေါ်တိုင်း နိုင်ငံရေးတာဝန်ခံ ပဒိုစောဟန်တာသာမွှေးက KNU-ဥက္ကဋ္ဌ ရာထူးကို လက်ခံရယူခဲ့ပါတယ်။ KNU-ဥက္ကဋ္ဌ ပဒိုစောဟန်တာသာမွှေးဟာ ကရင်ပြည်နယ်တောင်တန်းဒေသတွေမှာအခြေစိုက်ပြီး ကရင့်တော်လှန်ရေးကိုဆက်လက်ဆင်နွှဲရင်း ကရင်နှစ်သစ်ကူးပွဲတော်ကို နှစ်စဉ်ပြာသိုလဆန်း(၁)ရက်မှာ အစဉ်အလာမပျက် ဆက်လက်ကျင်းပခဲ့ပါတယ်။

KNU-ဥက္ကဋ္ဌ ပဒိုစောဟန်တာသာမွှေးဟာ နောက်ပိုင်းမှာ KRC-ကရင်တော်လှန်ရေးကောင်စီကိုဖွဲ့စည်းခဲ့ပြီး ကရင့်တော်လှန်ရေးကိုဆက်လက်ဆင်နွှဲခဲ့ပါတယ်။ တစ်နေ့မှာ ဖာပွန်

တောင်တန်းဒေသလူသောခိုကျေးရွာမှာနေထိုင်တဲ့ ဖူးဆယ်လယ်ပါ ဆိုသူက KNU-ဥက္ကဋ္ဌ ပဒိုစောဟန်တာသာမွေးထံ လာရောက်တွေ့ဆုံပြီး ကရင်နှစ်သစ်ကူးနေ့ဟာ တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ ကရင်လူမျိုးတို့အသုံးပြုလေ့ရှိတဲ့ သစ်သား ၁၃-ပြားကရင်ပြက္ခဒိန်ရဲ့ နှစ်ဦးသလေ လဆန်း(၁)ရက်နဲ့ကိုက်ညီတဲ့ တပို့တွဲလဆန်း(၁)ရက်မှာကျရောက်ကြောင်း တင်ပြခဲ့ပါတယ်။

၁၉၅၅-ခုနှစ်မှာ ပဒိုစောဟန်တာသာမွေးခေါင်းဆောင်တဲ့ KRC-ကရင်တော်လှန်ရေးကောင်စီဟာ ကရင်နှစ်သစ်ကူးနေ့ကို ပြာသိုလဆန်း(၁)ရက်မှ တပို့တွဲလဆန်း(၁)ရက်သို့ ပြောင်းလဲသတ်မှတ်ခဲ့ပြီး ကရင်နှစ်သစ်ကူးပွဲတော်ကို ပြာသိုလဆန်း(၁)ရက်မှ တပို့တွဲလဆန်း(၁)ရက်သို့ ပြောင်းလဲကျင်းပစေခဲ့ပါတယ်။ အဲဒီအချိန်ကစပြီး ကရင်လူမျိုးများဟာ ကရင်နှစ်သစ်ကူးပွဲတော်ကို ပြာသိုလဆန်း(၁)ရက်မှာလည်းကောင်း၊ တပို့တွဲလဆန်း(၁)ရက်မှာလည်းကောင်းကျင်းပခဲ့ကြပါတယ်။

၁၉၆၄-ခုနှစ် ပြည်ထောင်စုမြန်မာနိုင်ငံတော်လှန်ရေးအစိုးရက ကြီးမှူးကျင်းပတဲ့

ပြည်တွင်းငြိမ်းချမ်းရေးဆွေးနွေးပွဲအပြီးမှာ ပဒိုစောဟန်တာသာမွှေးခေါင်းဆောင်တဲ့ KRC-ကရင်တော်လှန်ရေးကောင်စီဟာ ငြိမ်းချမ်းရေးကိုရယူခဲ့ပါတယ်။ KRC-ကရင်တော်လှန်ရေးကောင်စီဟာ ကရင်နှစ်သစ်ကူးနေ့သုတေသနပြုရေး၊ ကရင့်ရိုးရာပြက္ခဒိန်သုတေသနပြုရေးနဲ့ ကရင်နှစ်သစ်ကူးပွဲတော်ကို တပို့တွဲလဆန်း(၁)ရက်မှာကျင်းပရေးတို့အတွက် ဆက်လက်ကြိုးပမ်းဆောင်ရွက်ခဲ့ပါတယ်။

၁၉၆၅-ခုနှစ် ဖေဖော်ဝါရီ(၂)ရက် (တပို့တွဲလဆန်း(၁)ရက်)မှာကျင်းပတဲ့ကရင်နှစ်သစ်ကူးပွဲတော်အခမ်းအနားမှာပဒိုစောဟန်တာသာမွှေးက အောက်ပါသုတေသနပြုချက်ပါတွေ့ရှိချက်များအပေါ်အခြေခံပြီးကရင်နှစ်သစ်ကူးပွဲတော်ကို တပို့တွဲလဆန်း(၁)ရက်မှာကျင်းပရခြင်းဖြစ်ကြောင်းမိန့်ကြားခဲ့ပါတယ်။

(၀၁)တပို့တွဲလတွင်ဖျောက်ဆိပ်ကြယ်မွန်းတည့်ခြင်း

(၀၂)ကရင်နှစ်ဦးလတွင်၂၉-ရက်ပါရှိခြင်း

(၀၃)ကရင်ပြက္ခဒိန်တွင် ၁၃-လပါရှိခြင်း

(၀၄)တပို့တွဲလဆန်း(၁)ရက်သည် တရုတ်နှင့်ဗီယက်နမ်လူမျိုးတို့၏ နှစ်သစ်ကူးနေ့နှင့်တူညီခြင်း

(၀၅)တပို့တွဲလဆန်း(၁)ရက်သည် ကမ္ဘာ့ပြက္ခဒိန်တွင်တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်ခြင်း

(၀၆)တပို့တွဲလဆန်း(၁)ရက်သည် ကမ္ဘာ့ပြက္ခဒိန်၏နှစ်ဦးပိုင်းတွင် အစဥ်အမြဲကျရောက်ခြင်း

(၀၇)ပြာသိုလဆန်း(၁)ရက် (ကရင်နှစ်သစ်ကူးနေ့)တွင်ကျရောက်သော ကရင်သက္ကရာဇ်အချို့သည် ကရင်သက္ကရာဇ်ကိုသိလိုလျှင်ခရစ်သက္ကရာဇ်ကို ၇၃၉ နှင့် ပေါင်းရမည်ဟူသော ပညာရှင်များ၏မိန့်ဆိုချက်နှင့်ကိုက်ညီမှုမရှိခြင်း

(၀၈)ပြာသိုလသည် လားပလူ ဟုခေါ်သည့်မင်္ဂလာမရှိသောလတွင်ကျရောက်နေခြင်း

(၀၉)တပို့တွဲလသည် ဖောသလေး(ခေါ်) ချယ်ရီပန်းများဖူးပွင့်သည့်လဖြစ်ခြင်း

(၁၀)ကရင်ပြက္ခဒိန်များတွင် အမှတ်စဥ်(၆)၌ရှိရမည့် လားဃူ ဟုခေါ်သော လတစ်လပျောက်နေခြင်း

(၁၁)တပို့တွဲလတွင် မြေပြန့်ဒေသများ၌ စပါးရိပ်သိမ်းပြီးစီးခြင်း

တို့ဖြစ်ပါတယ်။

(၀၁)တပို့တွဲလတွင်ဖျောက်ဆိပ်ကြယ်မွန်းတည့်ခြင်း ဆိုတာကတော့ (ဒဲထူမူဟား သလေလား) ဆိုတဲ့ ရှေးကရင်လူကြီးသူမများရဲ့ ထား၊ကဗျာ၊ လင်္ကာပါ အဓိပ္ပါယ်ဖွင့်ဆိုချက်အရ ညဉ့်ဦးယံအချိန်မှာ ဖျောက်ဆိပ်ကြယ်မွန်းတည့်တဲ့လဟာ ကရင်နှစ်ဦး သလေ လဖြစ်တယ်လို့ အဓိပ္ပါယ်ရတယ်။ ဗမာ့ပြက္ခဒိန်မှာ ၁၂-လ ပါရှိတဲ့အနက် ဖျောက်ဆိပ်ကြယ်ဟာ တပို့တွဲလမှာ မွန်းတည့်တယ်။ ဒါကြောင့် ကရင်နှစ်ဦး သလေ လဟာ တပို့တွဲလနဲ့ ကိုက်ညီတဲ့အတွက် သလေ လဆန်း (၁)ရက်မှာကျရောက်တဲ့ တပို့တွဲလဆန်း(၁)ရက်ဟာ ကရင်နှစ်သစ်ကူးနေ့ဖြစ်တယ်လို့ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ဖျောက်ဆိပ်ကြယ် မွန်းတည့်တဲ့လကို လက်လှမ်းမီသရွေ့ ရှာဖွေကြည့်လိုက်တဲ့အခါမှာ မြန်မာနိုင်ငံပြက္ခဒိန်အကြံပေးအဖွဲ့ကနှစ်စဉ်ပြုစုထုတ်ပြန်လျက်ရှိတဲ့ မဟာသင်္ကြန်စာများမှာ ဖျောက်ဆိပ်ကြယ်ဟာ ဝါခေါင်လဆုတ် (သို့မဟုတ်) တော်သလင်းလဆန်းရက်တွေမှာသာ အမြဲတမ်း မွန်းတည့်လေ့ရှိကြောင်းတွေ့ရှိရပြီးတပို့တွဲလမှာမွန်းတည့်တာကိုတော့တစ်ခါမှမတွေ့ ရှိရသေးပါဘူး။

ဒါကြောင့် ဖျောက်ဆိပ်ကြယ် မွန်းတည့်တဲ့ လဟာ တပို့တွဲလလား၊ ဝါခေါင်လလား၊ တော်သလင်းလလား ဆိုတာကို ဆက်လက်ပြီး သုတေသနပြုကြရဦးမှာဖြစ်ပါတယ်။

(၁၂)ကရင်နှစ်ဦးလတွင် ၂၉-ရက်ပါရှိခြင်းဆိုတာကတော့ (နော်ပေါ်မူး ဒေါ့ နော်ပေါ်စေး လိုကွဲ သလေး ဟီကော်ဒေး၊ နော်ပေါ်စေး ဒေါ့ နော်ပေါ်မူး လိုကွဲသလေး ဟီလေးပူး)ဆိုတဲ့ ရှေးကရင်လူကြီးသူမများရဲ့ ကရင်နှစ်ဦးလဆိုင်ရာ ထား၊ကဗျာ၊လင်္ကာပါ အဓိပ္ပါယ်ဖွင့်ဆိုချက်အရ ကရင်နှစ်ဦးလမှာ ၂၉-ရက်ပါရှိပြီး ဒုတိယ မြောက်လမှာပါရှိတဲ့ရက်ထက် တစ်ရက်နည်းရမယ်(ဒုတိယမြောက်လမှာ ၃၀-ရက်ပါရှိရမယ်) လို့ အဓိပ္ပါယ်ရတယ်။

နှစ်ဦး ပြာသိုလမှာ ၃၀-ရက်ပါရှိပြီး ဒုတိယ မြောက် တပို့တွဲလမှာ ၂၉-ရက်ပါရှိတဲ့ ကရင် ပြက္ခဒိန်ဟာ ကရင်နှစ်ဦးလတွင် ၂၉-ရက်ပါရှိပြီး ဒုတိယမြောက်လမှာ ပါရှိတဲ့ရက်ထက် တစ်ရက် နည်းရမယ် ဆိုတဲ့ ရှေးကရင်လူကြီးသူမများရဲ့ ကရင်နှစ်ဦးလဆိုင်ရာ ထား၊ကဗျာ၊လင်္ကာပါ အဓိပ္ပါယ်ဖွင့်ဆိုချက်နဲ့ကိုက်ညီမှုမရှိတဲ့ ပြက္ခဒိန် ဖြစ်တယ်။ နှစ်ဦး တပို့တွဲလမှာ ၂၉-ရက်ပါရှိပြီး

ဒုတိယမြောက် တပေါင်းလမှာ ၃၀-ရက်ပါရှိတဲ့ ကရင်ပြက္ခဒိန်သာလျှင် ဖော်ပြပါ ရှေးကရင်လူကြီးသူမများရဲ့ ကရင်နှစ်ဦးလဆိုင်ရာ ထား၊ ကဗျာ၊လင်္ကာပါအဓိပ္ပါယ်ဖွင့်ဆိုချက်နဲ့ကိုက်ညီမှုရှိတဲ့ပြက္ခဒိန်မှန်ဖြစ်တယ်။ ဒါကြောင့် အဆိုပါကရင်ပြက္ခဒိန်မှန်နဲ့ကိုက်ညီတဲ့ ပဒိုစောဟန်တာသာမွေးရဲ့ စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ နှစ်ဦး သလေ လဆန်း(၁)ရက်မှာ ကျရောက်တဲ့ တပို့တွဲလဆန်း(၁)ရက်ဟာကရင်နှစ်သစ်ကူးနေ့ ဖြစ်တယ်လို့ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ဖူးဆယ်လယ်ပါရဲ့ သစ်သား ၁၃-ပြားကရင်ပြက္ခဒိန်ကို အခြေခံပြီး ရေးဆွဲပြုစုထားတဲ့ ပဒိုစောဟန်တာသာမွေးရဲ့ စကောကရင် ၁၃-လပြက္ခဒိန်ရဲ့ နှစ်ဦး သလေ လမှာ ၂၉-ရက်ပါရှိပြီး ဒုတိယမြောက် ထေးကု လမှာ ၃၀-ရက်ပါရှိတဲ့အတွက် အဆိုပါ ပြက္ခဒိန်ရဲ့နှစ်ဦးလဟာ ဖော်ပြပါ ရှေးကရင်လူကြီးသူမများရဲ့ကရင်နှစ်ဦးလဆိုင်ရာ ထား၊ကဗျာ၊လင်္ကာပါ အဓိပ္ပါယ်ဖွင့်ဆိုချက်နဲ့ ကိုက်ညီမှုရှိပေမယ့် ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ဦး ထိုင်ခုတ်ဖို လမှာ ၁၅-ရက်ပါရှိပြီး ဒုတိယမြောက် ထိုင်ခုတ်ဒို လ မှာ ၁၄-ရက်သာပါရှိတဲ့အတွက် အဆိုပါ

ပြက္ခဒိန်ရဲ့နှစ်ဦးလဟာ ဖော်ပြပါ ရှေးကရင်လူကြီးသူမများရဲ့ကရင်နှစ်ဦးလဆိုင်ရာ ထား၊ ကဗျာ၊လက်ာပါအဓိပ္ပါယ်ဖွင့်ဆိုချက်နဲ့ကိုက်ညီမှုမရှိကြောင်းတွေ ရှိရပါတယ်။

ဒါကြောင့် ပဒိုစောဟန်တာသာမွေးရေးဆွဲပြုစုတဲ့ စကောကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ဦးလမှာ ၂၉-ရက်ပါရှိပေမယ့် ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ဦးလမှာ ၁၅-ရက်သာပါရှိခြင်း၊ အခြားသောကရင်ပညာရှင်များဖြစ်ကြတဲ့ ဖူးလွန်းရွှေ၊ ဖူးဖိုးလေးတေး၊ ဖူးအောင်လှ၊ ဖူးစောတောက် နဲ့ ဖူးဆာယေ(ဘိုးပိုက်ဆံ)တို့ရေးဆွဲပြုစုတဲ့ ကရင်ပြက္ခဒိန်တို့ရဲ့နှစ်ဦးလများမှာ ၃၀-ရက်စီပါရှိခြင်းတို့ကြောင့် ကရင်နှစ်ဦးလမှာ ၂၉-ရက်ပါရှိခြင်းဆိုတဲ့ မိန့်ကြားချက်အတွက် ဆက်လက်ပြီးသုတေသနပြုကြရဦးမှာဖြစ်ပါတယ်။

(၀၃)ကရင်ပြက္ခဒိန်တွင် ၁၃-လပါရှိခြင်း ဆိုတာကတော့(ထော်မေခလီး လောမေဒေညား)ဆိုတဲ့ ရှေးကရင်လူကြီးသူမများရဲ့ မိန့်မှာချက်အရ ဗမာပြက္ခဒိန်ပါ နယုန်လဆန်း(၁)ရက်မှလပြည့်နေ့အထိကို လားခလီး၊ နယုန်လဆုတ်(၁)ရက်မှလကွယ်နေ့အထိကို ဒေညား လို့ မှတ်ယူရမယ်။ နယုန်လ မှာ လားခလီး နဲ့ ဒေညား ဆိုတဲ့ လ

နှစ်လ ကျရောက်တဲ့အတွက် ကရင်ပြက္ခဒိန်မှာ ဖူးဆယ်လယ်ပါရဲ့ သစ်သား ၁၃-ပြားကရင်ပြက္ခဒိန်နည်းတူ ၁၃-လ ပါရှိရမှာဖြစ်သလို အဆိုပါ ပြက္ခဒိန်ရဲ့နှစ်ဦးလဟာ တပို့တွဲလ နဲ့ ထပ်တူဖြစ်တဲ့ ဖူးဆယ်လယ်ပါရဲ့ သစ်သား ၁၃-ပြားကရင်ပြက္ခဒိန်ရဲ့နှစ်ဦး သလေ လနဲ့ထပ်တူ ဖြစ်ရမယ်။ ဒါကြောင့် ဖူးဆယ်လယ်ပါရဲ့ သစ်သား ၁၃-ပြားကရင်ပြက္ခဒိန်ရဲ့ နှစ်ဦး သလေ လဆန်း(၁)ရက်မှာကျရောက်တဲ့ တပို့တွဲ လဆန်း(၁)ရက်ဟာ ကရင်နှစ်သစ်ကူးနေ့ ဖြစ်တယ်လို့ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ကော်ကဆာ(ပဒိုစောဟန်တာတာသာမွှေး)ဟာ နယုန်လကို လားခလီး နဲ့ ဒေညား ဆိုပြီး နှစ်လလုပ်ထားခြင်းဖြင့် ကရင်လူမျိုးတို့ရဲ့ မူလ ၁၂-လပြက္ခဒိန်ကို ၁၃-လပြက္ခဒိန်ဖြစ်အောင် ဖန်တီးထားတယ်လို့ အိုးဝေဂျာနယ်မှာပါရှိတဲ့ ဝန်ကြီးဟောင်း မန်းဘဆိုင်ရဲ့ ရေးသားဖော်ပြချက်တစ်ရပ်ကို ဖတ်ရှုရပါတယ်။

ပဒိုစောဟန်တာသာမွှေးဟာ လားခလီး နဲ့ ဒေညား ဆိုတဲ့ လနှစ်လကို နယုန်လ နဲ့ထပ်တူဖြစ်အောင်ရေးဆွဲခြင်းဖြင့် မူလ စကောကရင်

၁၂-လပြက္ခဒိန်ကို ၁၃-လပြက္ခဒိန် ဖြစ်အောင် ပြုစုထားခဲ့သလို ထိုင်ခုတ်ဖို နဲ့ ထိုင်ခုတ်ဒို ဆိုတဲ့ လနှစ်လကို တပို့တွဲလ နဲ့ ထပ်တူဖြစ်အောင် ရေးဆွဲခြင်းဖြင့် မူလ ပိုးကရင် ၁၂-လပြက္ခဒိန်ကို ၁၃-လပြက္ခဒိန်ဖြစ်အောင် ပြုစုထားခဲ့ပါတယ်။ ၎င်းပြုစုထားခဲ့တဲ့ စကောကရင် ၁၃-လပြက္ခဒိန် ရဲ့နှစ်ဦးလဟာဟာ ဖော်ပြပါ ရှေးကရင်လူကြီး သူမများရဲ့ကရင်နှစ်ဦးလဆိုင်ရာ ထား၊ကဗျာ၊ လင်္ကာပါ အဓိပ္ပါယ်ဖွင့်ဆိုချက်နဲ့ ကိုက်ညီမှုရှိ ပေမယ့် ပိုးကရင် ၁၃-လပြက္ခဒိန်ရဲ့နှစ်ဦးလ ကတော့ ဖော်ပြပါ ရှေးကရင်လူကြီးသူမများရဲ့ ကရင်နှစ်ဦးလဆိုင်ရာ အဓိပ္ပါယ်ဖွင့်ဆိုချက်နဲ့ ကိုက်ညီမှုမရှိကြောင်းတွေ့ရှိရပါတယ်။

ဒါကြောင့် ကရင်ပညာရှင်များဖြစ်ကြတဲ့ ဖူးကော်ကဆာ(ပဒိုစောဟန်တာသာမွေး) နဲ့ ဖူးစောတောက်တို့ရေးဆွဲပြုစုတဲ့ ကရင်ပြက္ခဒိန် တို့မှာ ၁၃-လစီပါရှိပြီး ဖူးအောင်လှ၊ ဖူးဆာယေ (ဘိုးပိုက်ဆံ)၊ ဖူးလွန်းရွှေ နဲ့ ဖူးဖိုးလေးတေးတို့ ရေးဆွဲပြုစုတဲ့ ကရင်ပြက္ခဒိန်တို့မှာ ၁၂-လစီ ပါရှိ တဲ့အတွက် ကရင်ပြက္ခဒိန်မှာ ၁၃-လ ပါရှိနိုင် သလို ၁၂-လ လည်းပါရှိနိုင်တယ်လို့ ဆိုရမှာ ဖြစ်ပါတယ်။

(၀၄)တပို့တွဲလဆန်း(၁)ရက်သည် တရုတ်နှင့် ဗီယက်နမ်လူမျိုးတို့၏ နှစ်သစ်ကူးနေ့ နှင့် တူညီခြင်း ဆိုတာကတော့ ကရင်၊တရုတ်နဲ့ဗီယက်နမ်လူမျိုးတို့ဟာ တစ်နွယ်တည်းဖြစ်ကြတဲ့အတွက် ကရင်နှစ်သစ်ကူးနေ့ဟာတပို့တွဲလဆန်း(၁)ရက်မှာကျရောက်လေ့ရှိတဲ့တရုတ်နဲ့ဗီယက်နမ်လူမျိုးတို့ရဲ့နှစ်သစ်ကူးနေ့နဲ့တူညီရမယ်လို့ ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ကမ္ဘာပေါ်မှာ ကော့ကေးရှပ်၊နီဂရိုးနဲ့ မွန်ဂို ဆိုတဲ့ပင်မမျိုးနွယ်စုကြီးသုံးစုရှိပါတယ်။ မွန်ဂိုပင်မမျိုးနွယ်စုကြီးကနေပြီး တိဗက်ဗမာ၊ ထိုင်းတရုတ် နဲ့ မွန်ခမာ ဆိုတဲ့ မျိုးနွယ်စုသုံးစုထပ်မံဖြာထွက်လာခဲ့ပြန်ပါတယ်။ ကရင်လူမျိုးတို့ဟာတိဗက်ဗမာမျိုးနွယ်စုမှ လည်းကောင်း၊ တရုတ်လူမျိုးတို့ဟာ ထိုင်းတရုတ်မျိုးနွယ်စုမှလည်းကောင်း၊ ဗီယက်နမ်လူမျိုးတို့ဟာ မွန်ခမာမျိုးနွယ်စုမှလည်းကောင်း ဆင်းသက်လာခဲ့ကြပါတယ်။ ကရင်၊ တရုတ် နဲ့ ဗီယက်နမ်လူမျိုးတို့ဟာ မွန်ဂိုပင်မမျိုးနွယ်စုကြီးမှ ဆင်းသက်လာခဲ့ကြတဲ့ တစ်နွယ်တည်းသောလူမျိုးများဖြစ်တဲ့အတွက် ၎င်းလူမျိုးတို့ရဲ့အသား

အရောင်နဲ့ မျက်နှာပုံပန်းသဏ္ဍာန်တို့ ဆင်တူကြပါတယ်။

ကမ္ဘာပေါ်မှာရှိတဲ့လူမျိုးတို့ရဲ့ နှစ်သစ်ကူးနေ့များဟာ မတူကွဲပြားတဲ့ အခြေခံအကြောင်းများအပေါ် မူတည်ပြီး ရက်အမျိုးမျိုးမှာကျရောက်လျက်ရှိပါတယ်။ ပင်မမျိုးနွယ်စုကြီးတစ်ခုတည်းမှဆင်းသက်လာခဲ့ကြတဲ့လူမျိုးတို့ရဲ့ နှစ်သစ်ကူးနေ့များဟာ မတူကွဲပြားတဲ့ အခြေခံအကြောင်းများအပေါ် မူတည်ပြီး တူညီတာတွေရှိသလို မတူညီတာတွေလည်းရှိပါတယ်။ လူမျိုးတစ်မျိုးတည်းမှာပင်လျှင် မတူကွဲပြားတဲ့ အခြေခံအကြောင်းများအပေါ်မူတည်ပြီးအဆိုပါလူမျိုးရဲ့ နှစ်သစ်ကူးနေ့များဟာ မတူညီကြတာကို ကရင်လူမျိုးတို့မှာ နှစ်သစ်ကူးနေ့ဆယ်မျိုးခန့်ရှိခဲ့ခြင်းကသက်သေထူနေပါတယ်။

ဒါကြောင့် တစ်နွယ်တည်းဖြစ်ကြတဲ့ ကရင်၊ တရုတ် နဲ့ ဗီယက်နမ်လူမျိုးတို့ရဲ့ နှစ်သစ်ကူးနေ့များဟာတူချင်ရင်တူနိုင်သလို မတူချင်ရင်လည်းမတူနိုင်တဲ့အတွက် ကရင်နှစ်သစ်ကူးနေ့ဟာ တပို့တွဲလဆန်း(၁)ရက်မှာ ကျရောက်လေ့ရှိတဲ့ တရုတ်နဲ့ဗီယက်နမ်လူမျိုးတို့ရဲ့နှစ်သစ်ကူးနေ့နဲ့ တူညီရမယ်လို့မဆိုနိုင်ပါ။

(၀၅)တပို့တွဲလဆန်း(၁)ရက်သည် ကမ္ဘာ့ပြက္ခဒိန်တွင် တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်ခြင်းဆိုတာကတော့ကရင်နှစ်သစ်ကူးနေ့ဟာ ကမ္ဘာ့ပြက္ခဒိန်မှာတစ်နှစ်လျှင်တစ်ကြိမ်မှန်မှန်ကျရောက်ရမယ်။ မြန်မာနိုင်ငံမှာ ကရင်နှစ်သစ်ကူးနေ့လို့အစိုးရကအသိအမှတ်ပြုထားတဲ့ ပြာသိုလဆန်း(၁)ရက်ဟာ ကမ္ဘာ့ပြက္ခဒိန်မှာတစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်လေ့မရှိဘဲ တပို့တွဲလဆန်း(၁)ရက်သာလျှင် ကမ္ဘာ့ပြက္ခဒိန်မှာ တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်လေ့ရှိတဲ့အတွက်တပို့တွဲလဆန်း(၁)ရက်ဟာ ကရင်နှစ်သစ်ကူးနေ့ဖြစ်တယ်လို့ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ယနေ့ကမ္ဘာပေါ်မှာ နေဗဟိုပြု-ဆိုလာပြက္ခဒိန်(Solar Calendar) နဲ့လဗဟိုပြုလူနာပြက္ခဒိန်(Lunar Calendar) ဆိုတဲ့ ပြက္ခဒိန်နှစ်မျိုးရှိပါတယ်။

နေဗဟိုပြု-ဆိုလာပြက္ခဒိန်ရဲ့ နှစ်ငယ်မှာ ၃၆၅-ရက် ပါရှိပြီး လေးနှစ်လျှင်တစ်ကြိမ် နှစ်ကြီးပြုလုပ်(၁-ရက်တိုး) ပေးရတဲ့အတွက် နှစ်ကြီးမှာ ၃၆၆-ရက် ပါရှိပါတယ်။ လဗဟိုပြု-လူနာပြက္ခဒိန်ရဲ့နှစ်ငယ်မှာ ၃၅၄-ရက် ပါရှိပြီး

သုံးနှစ်လျှင်တစ်ကြိမ် နှစ်ကြီးပြုလုပ်(၃၀-ရက်တိုး)ပေးရတဲ့အတွက် နှစ်ကြီးမှာ ၃၈၄-ရက်ပါရှိပါတယ်။ ကမ္ဘာ့ပြက္ခဒိန်ဟာ နေဗဟိုပြု-ဆိုလာပြက္ခဒိန်ဖြစ်ပြီး ဗမာ့ပြက္ခဒိန်တော့ လဗဟိုပြု-လူနာပြက္ခဒိန်ဖြစ်ပါတယ်။

အဆိုပါ ပြက္ခဒိန်နှစ်မျိုးဟာ အမျိုးအစားချင်းမတူပါဘူး။ သဘောသဘာဝချင်းမတူပါဘူး။ ယနေ့ မြန်မာ့ရိုးသုံးပြက္ခဒိန်ကိုအမျိုးအစားချင်းမတူတဲ့ဆိုလာကမ္ဘာ့ပြက္ခဒိန်နဲ့လူနာဗမာ့ပြက္ခဒိန်တို့နဲ့ ပေါင်းစပ်ရေးဆွဲပြုစုထားတဲ့အတွက် ၎င်းပြက္ခဒိန်ကိုအသုံးပြုတဲ့အခါမှာ မထင်မှတ်တဲ့ဖြစ်ရပ်များနဲ့ကြုံတွေ့ရလေ့ရှိပါတယ်။

ဆိုလာပြက္ခဒိန်တစ်ခုမှာပါရှိတဲ့ ရက်အားလုံးဟာ ၎င်းတို့နဲ့အမျိုးအစားချင်းတူညီတဲ့ အခြားဆိုလာပြက္ခဒိန်အားလုံးမှာ တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်လေ့ရှိပေမယ့် ၎င်းတို့နဲ့အမျိုးအစားချင်းမတူညီတဲ့ လူနာပြက္ခဒိန်များမှာတော့ ၎င်းတို့ရဲ့ပြက္ခဒိန်မှာတည်ရှိတဲ့ ၎င်းတို့ရဲ့တည်နေရာများအပေါ်မူတည်ပြီး တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်တဲ့ရက်တွေရှိသလိုမှန်မှန်မကျရောက်တဲ့ရက်တွေလည်းရှိပါတယ်။

ထိုနည်းတူ လူနာပြက္ခဒိန်တစ်ခုမှာပါရှိတဲ့ရက်အားလုံးဟာ ၎င်းတို့နဲ့အမျိုးအစားချင်းတူညီတဲ့

အခြားလူနာပြက္ခဒိန်အားလုံးမှာ တစ်နှစ်လျှင် တစ်ကြိမ်မှန်မှန်ကျရောက်လေ့ရှိပေမယ့်၎င်းတို့နဲ့အမျိုးအစားချင်းမတူညီတဲ့ဆိုလာပြက္ခဒိန်များမှာတော့၎င်းတို့ရဲ့ပြက္ခဒိန်မှာတည်ရှိတဲ့၎င်းတို့ရဲ့တည်နေရာများအပေါ်မူတည်ပြီး တစ်နှစ်လျှင် တစ်ကြိမ် မှန်မှန်ကျရောက်တဲ့ရက်တွေရှိသလို မှန်မှန်မကျရောက်တဲ့ရက်တွေလည်းရှိပါတယ်။

ဒါကြောင့် ပြာသိုလဆန်း(၁)ရက်ဟာ ဆိုလာကမ္ဘာ့ပြက္ခဒိန်မှာ တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်မကျရောက်တဲ့ ရက်အစုအဖွဲ့မှာပါဝင်တဲ့ လူနာဗမာ့ပြက္ခဒိန်ပါ ရက်တစ်ရက်ဖြစ်တဲ့အတွက် ကမ္ဘာ့ပြက္ခဒိန်မှာ တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်မကျရောက်ခြင်းကြောင့် ပြာသိုလဆန်း(၁)ရက်မှာကျရောက်တဲ့ ကရင်နှစ်သစ်ကူးနေ့အချို့ဟာ ကမ္ဘာ့ပြက္ခဒိန်မှာ တစ်နှစ်လျှင် တစ်ကြိမ်ကျရောက်ခြင်း၊ နှစ်ကြိမ်ကျရောက်ခြင်း၊ လုံးဝမကျရောက်ခြင်းတို့ကိုမြင်တွေ့ကြရပြီး တပို့တွဲလဆန်း(၁)ရက်ကတော့ ဆိုလာကမ္ဘာ့ပြက္ခဒိန်မှာ တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်တဲ့ရက်အစုအဖွဲ့မှာပါဝင်တဲ့ လူနာဗမာ့ပြက္ခဒိန်ပါ ရက်တစ်ရက်ဖြစ်တဲ့အတွက် ကမ္ဘာ့ပြက္ခဒိန်မှာ တစ်နှစ်လျှင်တစ်ကြိမ် မှန်မှန်ကျရောက်ခြင်းဖြစ်ပါတယ်။

(၀၆)တပို့တွဲလဆန်း(၁)ရက်သည် ကမ္ဘာ့ပြက္ခဒိန်၏နှစ်ဦးပိုင်းတွင် အစဥ်အမြဲ ကျရောက်ခြင်းဆိုတာကတော့ ကရင်နှစ်သစ်ကူးနေ့ဟာ ကမ္ဘာ့ပြက္ခဒိန်ရဲ့ နှစ်ဦးပိုင်းမှာ အစဥ်အမြဲ ကျရောက်ရမယ်။ မြန်မာနိုင်ငံမှာ ကရင်နှစ်သစ်ကူးနေ့လို့ အစိုးရကအသိအမှတ်ပြုထားတဲ့ ပြာသိုလဆန်း(၁)ရက်ဟာ ကမ္ဘာ့ပြက္ခဒိန်ရဲ့ နှစ်ဦးပိုင်းမှာ အစဥ်အမြဲ ကျရောက်ခြင်းမရှိဘဲ တပို့တွဲလဆန်း(၁)ရက်သာလျှင်ကမ္ဘာ့ပြက္ခဒိန်ရဲ့ နှစ်ဦးပိုင်းမှာ အစဥ်အမြဲ ကျရောက်လေ့ရှိတဲ့အတွက် တပို့တွဲလဆန်း(၁)ရက်ဟာ ကရင်နှစ်သစ်ကူးနေ့ဖြစ်တယ်လို့ ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ဆိုလာပြက္ခဒိန်တစ်ခုရဲ့နှစ်ဦးပိုင်းမှာတည်ရှိတဲ့ရက်အားလုံးဟာ ၎င်းတို့နဲ့အမျိုးအစားချင်းတူညီတဲ့အခြားဆိုလာပြက္ခဒိန်အားလုံးရဲ့နှစ်ဦးပိုင်းမှာ အစဥ်အမြဲ ကျရောက်လေ့ရှိပေမယ့် ၎င်းတို့နဲ့အမျိုးအစားချင်းမတူညီတဲ့ လူနာပြက္ခဒိန်ရဲ့နှစ်ဦးပိုင်းမှာတော့ ၎င်းတို့ရဲ့ပြက္ခဒိန်မှာတည်ရှိတဲ့ ၎င်းတို့ရဲ့တည်နေရာများအပေါ်မူတည်ပြီး အစဥ်အမြဲကျရောက်တဲ့ရက်တွေရှိသလို အစဥ်အမြဲမကျရောက်တဲ့ရက်တွေလည်းရှိပါတယ်။

ထိုနည်းတူ လူနာပြက္ခဒိန်တစ်ခုရဲ့နှစ်ဦးပိုင်းမှာ တည်ရှိတဲ့ရက်အားလုံးဟာငင်းတို့နဲ့အမျိုးအစားချင်းတူညီတဲ့ အခြားလူနာပြက္ခဒိန်အားလုံးရဲ့ နှစ်ဦးပိုင်းမှာအစဥ်အမြဲကျရောက်လေ့ရှိပေမယ့် ငင်းတို့နဲ့အမျိုးအစားချင်းမတူညီတဲ့ ဆိုလာပြက္ခဒိန်ရဲ့နှစ်ဦးပိုင်းမှာတော့ ငင်းတို့ရဲ့ပြက္ခဒိန်မှာတည်ရှိတဲ့ ငင်းတို့ရဲ့တည်နေရာများအပေါ်မူတည်ပြီး အစဥ်အမြဲ ကျရောက်တဲ့ရက်တွေရှိသလို အစဥ်အမြဲ မကျရောက်တဲ့ ရက်တွေလည်းရှိပါတယ်။

ဒါကြောင့် ပြာသိုလဆန်း(၁)ရက်ဟာ ဆိုလာကမ္ဘာ့ပြက္ခဒိန်ရဲ့နှစ်ဦးပိုင်းမှာ အစဥ်အမြဲ မကျရောက်တဲ့ ရက်အစုအဖွဲ့မှာပါဝင်တဲ့ လူနာဗမာ့ပြက္ခဒိန်ပါ ရက်တစ်ရက်ဖြစ်တဲ့အတွက် ကမ္ဘာ့ပြက္ခဒိန်ရဲ့နှစ်ဦးပိုင်းမှာ အစဥ်အမြဲ မကျရောက်ခြင်းဖြစ်ပြီး တပို့တွဲလဆန်း(၁)ရက်ကတော့ ဆိုလာကမ္ဘာ့ပြက္ခဒိန်ရဲ့နှစ်ဦးပိုင်းမှာ အစဥ်အမြဲ ကျရောက်တဲ့ ရက်အစုအဖွဲ့မှာပါဝင်တဲ့ လူနာဗမာ့ပြက္ခဒိန်ပါ ရက်တစ်ရက်ဖြစ်တဲ့အတွက် ကမ္ဘာ့ပြက္ခဒိန်ရဲ့နှစ်ဦးပိုင်းမှာ အစဥ်အမြဲ ကျရောက်ခြင်းဖြစ်ပါတယ်။

(၀၇)ပြာသိုလဆန်း(၁)ရက် (ကရင်နှစ်သစ်ကူးနေ့)တွင်ကျရောက်သော ကရင်သက္ကရာဇ်အချို့သည် (ကရင်သက္ကရာဇ်ကိုသိလိုလျှင် ခရစ်သက္ကရာဇ်ကို ၇၃၉ နှင့် ပေါင်းရမည်) ဟူသော ပညာရှင်များ၏မိန့်ဆိုချက်နှင့်ကိုက်ညီမှုမရှိခြင်း ဆိုတာကတော့ ပြာသိုလဆန်း(၁)ရက်(ကရင်နှစ်သစ်ကူးနေ့)မှာကျရောက်တဲ့ကရင်သက္ကရာဇ် အချို့ဟာ (ကရင်သက္ကရာဇ်ကိုသိလိုလျှင် ခရစ်သက္ကရာဇ်ကို ၇၃၉ နှင့် ပေါင်းရမည်) ဆိုတဲ့ ပညာရှင်များရဲ့မိန့်ဆိုချက်နဲ့ ကိုက်ညီမှုမရှိဘဲ တပို့တွဲလဆန်း(၁)ရက်မှာကျရောက်တဲ့ ကရင်သက္ကရာဇ်များသာလျှင် ဖော်ပြပါပညာရှင်များရဲ့ မိန့်ဆိုချက်နဲ့ ကိုက်ညီမှုရှိတဲ့အတွက် တပို့တွဲလဆန်း(၁)ရက်ဟာ ကရင်နှစ်သစ်ကူးနေ့ဖြစ်တယ်လို့ ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ၁၈၈၁-ခုနှစ်မှာ စတင်ဖွဲ့စည်းခဲ့တဲ့ KNA-ကရင်အမျိုးသား အဖွဲ့ချုပ်ဟာ ၁၉၃၇-ခုနှစ်မှာ ကရင်အမျိုးသားသီချင်း၊ ကရင်အမျိုးသားအလံတော် နဲ့ ကရင်အမျိုးသားနှစ်သစ်ကူးနေ့တို့ကို ဗြိတိသျှအစိုးရထံမှတောင်းဆိုရရှိခဲ့ပါတယ်။ KNA-ကရင်

ခေါင်းဆောင်များဟာ ၁၉၃၈-ခုနှစ် ဇန်နဝါရီ (၁)ရက်၊ ၁၂၉၉-ခုနှစ် ပြာသိုလဆန်း(၁)ရက် (ကရင်နှစ်သစ်ကူးနေ့)မှာကျရောက်တဲ့ ကရင်သက္ကရာဇ်ကို (ကရင်သက္ကရာဇ်ကိုသိလိုလျှင် ခရစ်သက္ကရာဇ်ကို ၇၃၉ နဲ့ပေါင်းရမည်) ဆိုတဲ့ ပညာရှင်များရဲ့မိန့်ဆိုချက်အတိုင်း တွက်ယူခဲ့ကြပြီး ၂၆၇၇ (၁၉၃၈+၇၃၉) ခုနှစ် လို့ဖော်ပြခဲ့ပါတယ်။ အဲဒီအချိန်ကစပြီး ကရင်လူမျိုးတို့ဟာ ကရင်သက္ကရာဇ်ကို သိလိုတဲ့အခါမှာ ဖော်ပြပါ ပညာရှင်များရဲ့မိန့်ဆိုချက်အတိုင်းတွက်ယူခဲ့ကြပါတယ်။

ခရစ်သက္ကရာဇ်တစ်ခုကိုရယူပြီး ၇၃၉ နဲ့ပေါင်းတဲ့အခါ ဇန်နဝါရီ(၁)ရက်ကစပြီး ဒီဇင်ဘာ(၃၁)ရက်မှာကုန်ဆုံးတဲ့ကမ္ဘာ့ပြက္ခဒိန်ထက် ၇၃၉-နှစ်ပိုပြီးကြီးတဲ့ ကမ္ဘာ့ပြက္ခဒိန်နဲ့ထပ်တူညီတဲ့ ဆိုလာပြက္ခဒိန်တစ်မျိုးကိုရရှိမှာဖြစ်ပြီး အဆိုပါ ဆိုလာပြက္ခဒိန်မှာပါရှိတဲ့ ရက်အားလုံးမှာကျရောက်တဲ့ ကရင်သက္ကရာဇ်များကို ဖော်ပြပါပညာရှင်များရဲ့မိန့်ဆိုချက်အတိုင်းတွက်ယူတဲ့အခါမှာ မှန်ကန်တဲ့ ကရင်သက္ကရာဇ်များကိုရရှိပါတယ်။

ဒါကြောင့် ကရင်ပြက္ခဒိန်မှာပါရှိတဲ့ရက်အားလုံးမှာကျရောက်တဲ့ ကရင်သက္ကရာဇ်များကို

ဖော်ပြပါပညာရှင်များရဲ့မိန့်ဆိုချက်အတိုင်းတွက်ယူတဲ့အခါမှာ မှန်ကန်တဲ့ကရင်သက္ကရာဇ်များကို ရရှိဖို့အတွက် ကရင်ပြက္ခဒိန်ဟာ ဇန်နဝါရီ(၁)ရက်စပြီးဒီဇင်ဘာ(၃၁)ရက်မှာကုန်ဆုံးတဲ့ ကမ္ဘာ့ပြက္ခဒိန်နဲ့ထပ်တူညီတဲ့ ဆိုလာပြက္ခဒိန်ဖြစ်ဖို့လိုအပ်ပါတယ်။

ဒါပေမယ့် ယနေ့ ကရင်လူမျိုးတို့အသုံးပြုနေကြတဲ့ ကရင်ပြက္ခဒိန်ဟာ ဇန်နဝါရီ(၁)ရက်ကစပြီး ဒီဇင်ဘာ(၃၁)ရက်မှာကုန်ဆုံးတဲ့ ကမ္ဘာ့ပြက္ခဒိန်နဲ့ထပ်တူညီတဲ့ဆိုလာပြက္ခဒိန်မဟုတ်ဘဲ သလေး-ထိုင်ခုတ်ဖို-ပြာသို လဆန်း(၁)ရက်ကစပြီး လားပလူ-လားလိန်း-နတ်တော်လကွယ်နေ့မှာကုန်ဆုံးတဲ့ လူနာပြက္ခဒိန် ဖြစ်နေတဲ့အတွက် အဆိုပါ ပြက္ခဒိန်မှာပါရှိတဲ့ရက်များမှာကျရောက်တဲ့ ကရင်သက္ကရာဇ်အချို့ဟာ ဖော်ပြပါပညာရှင်များရဲ့မိန့်ဆိုချက်အတိုင်းတွက်ယူလို့ရရှိတဲ့ကရင်သက္ကရာဇ်များနဲ့ကိုက်ညီမှုမရှိပါဘူး။ ဒါကြောင့် ပြာသိုလဆန်း(၁)ရက်(ကရင်နှစ်သစ်ကူးနေ့)မှာကျရောက်တဲ့ကရင်သက္ကရာဇ်အချို့ဟာဖော်ပြပါပညာရှင်များ၏မိန့်ဆိုချက်အတိုင်း တွက်ယူလို့ရရှိတဲ့ ကရင်သက္ကရာဇ်များနဲ့ ကိုက်ညီမှုမရှိခြင်းဖြစ်ပါတယ်။

(၀၈)ပြာသိုလသည် လားပလူ ဟုခေါ်သည့် မင်္ဂလာမရှိသောလတွင် ကျရောက်နေခြင်း ဆိုတာကတော့ ပြာသိုလဟာ ကရင်ပြက္ခဒိန်ရဲ့ နှစ်ကုန်လဖြစ်တဲ့ လားပလူ လို့ခေါ်တဲ့ မင်္ဂလာ မရှိတဲ့လမှာကျရောက်နေပြီး တပို့တွဲလကတော့ ကရင်ပြက္ခဒိန်ရဲ့နှစ်ဦးလဖြစ်တဲ့ သလေ လမှာ ကျရောက်တဲ့အတွက် ကရင်နှစ်သစ်ကူးနေ့ကို ကရင်ပြက္ခဒိန်ရဲ့နှစ်ဦး သလေ လဆန်း(၁)ရက် နဲ့ကိုက်ညီတဲ့ တပို့တွဲလဆန်း(၁)ရက်သို့ ပြောင်း လဲသတ်မှတ်ရခြင်းဖြစ်တယ်လို့ဆိုလိုခြင်းဖြစ်ပါ တယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် တောင်ပေါ်ဒေသ မှာနေထိုင်ကြတဲ့ကရင်လူမျိုးအချို့ဟာကရင်လို လားပလူ လို့ခေါ်တဲ့ ကရင်ပြက္ခဒိန်ရဲ့နှစ်ကုန်လ မှာမြေကြီးထဲမှာမြှုပ်နှံထားတဲ့ လူသေကောင် များကို ပြန်လည်တူးဖော်ပြီး မီးရှို့လေ့ရှိပါတယ်။ ၎င်းတို့ဟာအဆိုပါလမှာ တောင်ယာသစ်များကို မရှာဖွေကြပါ။ အိုးသစ်အိမ်သစ်များကို မဆောက်လုပ်ကြပါ။ မင်္ဂလာပွဲများကိုမပြုလုပ် ကြပါ။ အဆိုပါ လကိုလွန်မြောက်ပြီး ကရင်လို သလေ လို့ခေါ်တဲ့ ကရင်ပြက္ခဒိန်ရဲ့နှစ်ဦးလသို့ ရောက်မှသာ တောင်ယာသစ်များကိုရှာဖွေကြ ပါတယ်။ အိုးသစ်အိမ်သစ်များကိုဆောက်လုပ်

ကြပါတယ်။မင်္ဂလာပွဲများကိုပြုလုပ်ကြပါတယ်။

ဗမာမှုနယ်ပယ်မှာ ရက်ရာဇာ လို့ ခေါ်တဲ့ မင်္ဂလာရှိတဲ့ ရက်ကောင်းရက်မြတ် နဲ့ ပြဿဒါး၊ ဝါရမိတ္တု လို့ ခေါ်တဲ့ မင်္ဂလာမရှိတဲ့ ရက်ဆိုး ရက်ယုတ်တွေရှိတယ်ဆိုတဲ့ အယူ(အယူအဆ) တစ်ရပ်ရှိပါတယ်။ အဆိုပါ အယူ(အယူအဆ) ကို ယုံကြည်လက်ခံတဲ့ ဗမာလူမျိုးတွေရှိသလို ယုံကြည်လက်ခံခြင်းမရှိတဲ့ဗမာလူမျိုးတွေလည်း ရှိပါတယ်။

ထိုနည်းတူ ကရင်မှုနယ်ပယ်မှာ လားပလူ လို့ ခေါ်တဲ့ ကရင်ပြက္ခဒိန်ရဲ့နှစ်ကုန်လဟာ မင်္ဂလာ မရှိတဲ့လဖြစ်တယ်ဆိုတဲ့ အယူ(အယူအဆ) တစ်ရပ်ရှိပါတယ်။ အဆိုပါ အယူ(အယူအဆ) ကို ယုံကြည်လက်ခံတဲ့ ကရင်လူမျိုးတွေရှိသလို ယုံကြည်လက်ခံခြင်းမရှိတဲ့ ကရင်လူမျိုးတွေ လည်းရှိပါတယ်။

မင်္ဂလာရှိခြင်း၊ မင်္ဂလာမရှိခြင်းဆိုတာ မိမိတို့ရဲ့ လုပ်ဆောင်မှုအပေါ်မှာသာမူတည်ပါတယ်။ လ၊ ရက်တွေနဲ့မသက်ဆိုင်ပါ။ မင်္ဂလာရှိတဲ့အလုပ်ကို လုပ်လျှင် မင်္ဂလာရှိမှာဖြစ်သလို မင်္ဂလာမရှိတဲ့ အလုပ်ကိုလုပ်လျှင် မင်္ဂလာမရှိမှာဖြစ်ပါတယ်။ ကရင်လူမျိုးတို့ဟာ ပြာသိုလဆန်း(၁)ရက်မှာ ကျရောက်တဲ့ ကရင်နှစ်သစ်ကူးနေ့မှာ နှစ်သစ် အတွက် ဘုရားထံမှာဆုတောင်းကြပါတယ်။

ဘုန်းကြီး၊ရဟန်း၊သက်ကြီးရွယ်အို၊မိဘဘိုးဘွားများကို လှူဖွယ်ပစ္စည်းများနဲ့ လှူဒါန်းကြပါတယ်။ ဒီလို မင်္ဂလာရှိတဲ့အလုပ်များကို လုပ်တဲ့လကို မင်္ဂလာမရှိတဲ့လလို့မမှတ်ယူသင့်ပါ။

မြန်မာလူမျိုးတို့အလေးအမြတ်ထားတဲ့ မြန်မာ့လွတ်လပ်ရေးနေ့၊ ခရစ်ယာန်ဘာသာဝင်တို့အလေးအမြတ်ထားတဲ့ သခင်ခရစ်တော်ရဲ့မွေးနေ့နဲ့ ကရင်လူမျိုးတို့အလေးအမြတ်ထားတဲ့ ကရင်နှစ်သစ်ကူးနေ့တို့ဟာ ပြာသိုလအတွင်းမှာ အများအားဖြင့်ကျရောက်လေ့ရှိပါတယ်။

မြန်မာနိုင်ငံနဲ့ ကမ္ဘာ့နိုင်ငံအသီးသီးမှာနေထိုင်ကြတဲ့ မြန်မာလူမျိုးတို့ဟာ ပြာသိုလအတွင်းမှာ ကျရောက်လေ့ရှိတဲ့မြန်မာ့လွတ်လပ်ရေးပွဲတော်ကို ပျော်ရွှင်စွာ ဆင်နွဲလေ့ရှိကြပါတယ်။ ကမ္ဘာ့နိုင်ငံအသီးသီးမှာနေထိုင်ကြတဲ့ ခရစ်ယာန်ဘာသာဝင်တို့ဟာပြာသိုလအတွင်းမှာကျရောက်လေ့ရှိတဲ့ ခရစ္စမတ်ပွဲတော်ကို ပျော်ရွှင်စွာဆင်နွဲလေ့ရှိကြပါတယ်။ မြန်မာနိုင်ငံနဲ့ကမ္ဘာ့နိုင်ငံအသီးသီးမှာနေထိုင်ကြတဲ့ ကရင်လူမျိုးတို့ဟာ ပြာသိုလဆန်း(၁)ရက်မှာ ကျရောက်လေ့ရှိတဲ့ ကရင်နှစ်သစ်ကူးပွဲတော်ကို ပျော်ရွှင်စွာဆင်နွဲလေ့ရှိကြပါတယ်။ ပြာသိုလကို မင်္ဂလာမရှိတဲ့လလို့ မှတ်ယူထားကြတဲ့ ကရင်လူမျိုးများသည်ပင်လျှင်ပြာသိုလကွယ်ညများမှာပျော်ပွဲရွှင်ပွဲများကို

နှစ်စဉ်ကျင်းပလေ့ရှိကြပါတယ်။

ဒါကြောင့် တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ ကရင်လူမျိုးအချို့က ပြာသိုလဆန်း(၁)ရက်မှာ ကျရောက်တဲ့ကရင်နှစ်သစ်ကူးနေ့ကို မင်္ဂလာမရှိတဲ့နေ့လို့ အယူရှိခြင်း(ယုံကြည်လက်ခံခြင်း)ကြောင့် တောင်ပေါ်မြေပြန့်ဒေသနှစ်ရပ်လုံးမှာ နေထိုင်တဲ့ကရင်တစ်မျိုးသားလုံးနဲ့သက်ဆိုင်တဲ့ ကရင်နှစ်သစ်ကူးနေ့ကို တပို့တွဲလဆန်း(၁)ရက်သို့ ပြောင်းလဲသတ်မှတ်ခြင်းဟာ လျော်ကန်သင့်မြတ်ခြင်းမရှိဘူးလို့ဆိုရမှာဖြစ်ပါတယ်။

(၀၉)တပို့တွဲလသည် ဖောသလေး ဟုခေါ်သော ချယ်ရီပန်းများဖူးပွင့်သည့်လဖြစ်ခြင်း ဆိုတာကတော့ ကရင်ပြက္ခဒိန်ရဲ့နှစ်ဦး သလေ လမှာ ဖောသလေး လို့ခေါ်တဲ့ချယ်ရီပန်းများဖူးပွင့်လေ့ရှိတယ်။ ဇမာ ၁၂-လရှိတဲ့အနက် ချယ်ရီပန်းများဖူးပွင့်တဲ့လဟာ တပို့တွဲလဖြစ်တယ်။ ဒါကြောင့် ကရင်ပြက္ခဒိန်ရဲ့နှစ်ဦး သလေ လဟာတပို့တွဲလနဲ့ ကိုက်ညီတဲ့အတွက် သလေ လဆန်း(၁)ရက်မှာ ကျရောက်တဲ့ တပို့တွဲလဆန်း(၁)ရက်ဟာ ကရင်နှစ်သစ်ကူးနေ့ဖြစ်တယ်လို့ ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ချယ်ရီပင်တွေဟာ

တောင်ပေါ်ဒေသများမှာပေါက်ရောက်လေ့ရှိပြီး အေးမြတဲ့ဆောင်းရာသီမှာဖူးပွင့်လေ့ရှိပါတယ်။ နိုဝင်ဘာ၊ ဒီဇင်ဘာ၊ ဇန်နဝါရီ၊ ဖေဖော်ဝါရီ စတဲ့ လများဟာ ချယ်ရီပန်းများဖူးပွင့်တဲ့လများ ဖြစ်ပါတယ်။ ဒါကြောင့် ချယ်ရီပန်းများဟာ တပို့တွဲလမှာသာမက အခြားလများမှာလည်း ဖူးပွင့်လေ့ရှိတဲ့အတွက် ချယ်ရီပန်းများဖူးပွင့်တဲ့ လကို ကရင်နှစ်ဦးလလို့မှတ်ယူခဲ့မယ်ဆိုရင် ကရင်နှစ်ဦးလဟာ ချယ်ရီပန်းများဖူးပွင့်လေ့ ရှိတဲ့ ဘယ်လမှာမဆိုဖြစ်နိုင်တဲ့အတွက် ကရင် နှစ်သစ်ကူးနေ့ဟာလည်း ချယ်ရီပန်းများဖူးပွင့် တဲ့ ဘယ်လမှာမဆိုကျရောက်နိုင်တယ်လို့ ဆိုရ မှာဖြစ်ပါတယ်။

(၁၀)ကရင်ပြက္ခဒိန်များတွင် အမှတ်စဥ်(၆)၌ ရှိရမည့် လားဃှူ ဟုခေါ်သော လတစ်လ ပျောက်နေခြင်းဆိုတာကတော့ ကရင်ပြက္ခဒိန် များရဲ့အမှတ်စဥ်(၆)မှာ လားနွီး၊ အမှတ်စဥ်(၇) မှာ လားဃှို့လို့ ပါရှိတဲ့အတွက် အဆိုပါလများ ဟာ မှားယွင်းတဲ့အမှတ်စဥ်များမှာတည်ရှိနေကြ တယ်။ အမှတ်စဥ်(၆)မှာ လားဃှူ၊ အမှတ်(၇)မှာ လားနွီး၊ အမှတ်စဥ်(၈)မှာ လားဃှို့လို့ ပါရှိမှသာ အဆိုပါလများဟာ မှန်ကန်တဲ့အမှတ်စဥ်များမှာ တည်ရှိတယ်လို့ ဆိုနိုင်မှာဖြစ်တယ်။ ဒါကြောင့်

ကရင်ပြက္ခဒိန်များရဲ့အမှတ်စဥ်(၆)မှာပါရှိရမယ့် လားဃျူ လို့ ခေါ်တဲ့ လတစ်လပျောက်နေတယ် လို့ ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် ကရင်ပြက္ခဒိန်များ ရဲ့အမှတ်စဥ်(၆)မှာတည်ရှိတဲ့ လားနွီး ဟာ လေမိုးသည်းထန်တဲ့လဖြစ်ပါတယ်။လေဒဏ်မိုးဒဏ်ကြောင့်သစ်ပင်သစ်ကိုင်းများကိုင်းညွှတ်နေလေ့ရှိတဲ့လဖြစ်ပါတယ်။ ဒီလို သစ်ပင်သစ်ကိုင်းများကိုင်းညွှတ်နေတာကို ကရင်လို တနွီး လို့ ခေါ်ပါတယ်။ ဒါကြောင့် လားနွီး ဟာ လေဒဏ်မိုးဒဏ်ကြောင့်သစ်ပင်သစ်ကိုင်းများကိုင်းညွှတ်နေလေ့ရှိတဲ့လလို့ဆိုလိုခြင်းဖြစ်ပါတယ်။

ကရင်ပညာရှင်များရေးဆွဲပြုစုထားတဲ့ ကရင်ပြက္ခဒိန်များအနက် ဖူးအောင်လှ၊ဖူးလွန်းရွှေ၊ဖူးစောတောက်၊ဖူးကော်ကဆာ(ပဒိုစောဟန်တာသာမွေး)တို့ရဲ့ ကရင်ပြက္ခဒိန်တို့ရဲ့အမှတ်စဥ်(၇)မှာ လားနွီး လို့ပါရှိတဲ့အတွက် အချို့က လားနွီး ကို သတ္တမပျောက်လလို့ ယူဆကြပါတယ်။ အမှန်အားဖြင့် သတ္တမပျောက်လလို့ ဆိုလိုခြင်းမဟုတ်ပါ။ သစ်ပင်သစ်ကိုင်းများကိုင်းညွှတ်နေလေ့ရှိတဲ့လလို့ ဆိုလိုခြင်းသာဖြစ်ပါတယ်။

ထိုနည်းတူစွာ ကရင်ပြက္ခဒိန်များရဲ့အမှတ်စဉ် (၄)မှာတည်ရှိတဲ့ လားဃို့ ဟာလည်း လေမိုး သည်းထန်တဲ့လဖြစ်ပါတယ်။ လေဒဏ်မိုးဒဏ် ကြောင့် ပျားအုံများပင်မြေပြင်ပေါ်သို့ပြုတ်ကျ လေ့ရှိတဲ့လဖြစ်ပါတယ်။ အဆိုပါလမှာ ကရင် လူမျိုးတို့ဟာ မြေပြင်ပေါ်မှာပြုတ်ကျနေတဲ့ ပျားအုံများကို လိုက်လံရှာဖွေကောက်ယူပြီး ပျားရည်နဲ့ ကရင်လို ကနဲဃို့ လို့ခေါ်တဲ့ ပျားဖယောင်းများကို စုဆောင်းလေ့ရှိပါတယ်။ ဒါကြောင့် ကနဲဃို့ ဆိုတဲ့ အခေါ်အဝေါ်မှာပါရှိ တဲ့ ဃို့ ဆိုတဲ့အမည်ကိုအကြောင်းပြုပြီးအဆိုပါ လကို လားဃို့ (ပျားလ(ဝါ) ပျားဖယောင်းများ စုဆောင်းတဲ့လ) လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

ကရင်ပညာရှင်များရေးဆွဲပြုစုထားတဲ့ ကရင် ပြက္ခဒိန်များအနက် ဖူးအောင်လှ၊ဖူးလွန်းရွှေ၊ ဖူးစောတောက်၊ဖူးကော်ကဆာ(ပဒိုစောဟန်တာ သာမွေး) တို့ရဲ့ ကရင်ပြက္ခဒိန်တို့ရဲ့အမှတ်စဉ် (၈)မှာ လားဃို့လို့ ပါရှိတဲ့အတွက် အချို့က လားဃို့ကိုအငှမခြောက်လလို့ယူဆကြပါတယ်။ အမှန်အားဖြင့် အငှမခြောက်လလို့ ဆိုလိုခြင်း မဟုတ်ပါ။ ပျားဖယောင်းများကိုစုဆောင်း တဲ့လလို့ဆိုလိုခြင်းသာဖြစ်ပါတယ်။

ကရင်ပညာရှင်များရေးဆွဲပြုစုထားတဲ့ ကရင်ပြက္ခဒိန်အချို့မှာ လားဃှူ လို့ ခေါ်တဲ့လတစ်လပါရှိကြောင်းတွေ့ရှိရပါတယ်။ တောင်ယာကို ကရင်လို ဃှူ လို့ခေါ်ပါတယ်။ တောင်ယာတွေထဲမှာအလေ့ကျပေါက်နေတဲ့ ပေါင်းပင်မြက်ပင်များကို ပေါင်းသင်ရှင်းလင်းပေးရတဲ့လဖြစ်တဲ့အတွက် အဆိုပါလကို လားဃှူ (တောင်ယာလ (ဝါ) တောင်ယာကိုပေါင်းသင်ရှင်းလင်းပေးရတဲ့လ) လို့ ခေါ်ဝေါ်ခြင်းဖြစ်ပါတယ်။

လားဃှူ ဟာ ဖူးစောတောက်၊ ဖူးကော်ကဆာ (ပဒိုစောဟန်တာသာမွှေး)၊ ဖူးအောင်လှ နဲ့ ဖူးလွန်းရွှေတို့ ရေးဆွဲပြုစုတဲ့ ကရင်ပြက္ခဒိန်တို့ရဲ့အမှတ်စဉ်(၆)မှာ တည်ရှိတဲ့အတွက် အချို့ကအဆိုပါလကို ဆဋ္ဌမမြောက်လလို့အမိပ္ပါယ်ရတဲ့ လားဃှူ လို့လည်း ခေါ်ဝေါ်ကြပါတယ်။ အမှန်အားဖြင့် အဆိုပါလရဲ့အမည်မှန်ဟာ ဆဋ္ဌမမြောက်လလို့ အမိပ္ပါယ်ရတဲ့ လားဃှူ မဟုတ်ပါ။ တောင်ယာလလို့အမိပ္ပါယ်ရတဲ့ လားဃှူ သာဖြစ်ပါတယ်။

ကရင်လများရဲ့အမည်ကို မိုးကောင်းကင်မှာလှည့်ပတ်သွားလာနေတဲ့ နေ၊လ၊နက္ခတ်တာရာ၊ မြေပြင်ပေါ်မှာ ဖူးပွင့်လေ့ရှိတဲ့ သစ်ပင်ပန်းမန်၊ ကရင်လူမျိုးတို့ရဲ့ ယုံကြည်ကိုးကွယ်မှု၊ ရိုးရာဓလေ့၊ မိရိုးဖလာအသက်မွေးဝမ်းကျောင်း

လုပ်ငန်းနဲ့ တောတိရစ္ဆာန်များရဲ့အလေ့အထများ အပေါ်အခြေခံပြီး မှည့်ခေါ်ခြင်းဖြစ်ပါတယ်။ ကရင်ပြက္ခဒိန်မှာပါရှိတဲ့ လများတည်ရှိနေတဲ့ အမှတ်စဉ်များအပေါ် အခြေခံပြီး မှည့်ခေါ်ခြင်း မဟုတ်ပါ။

ဒါကြောင့် ကရင်ပြက္ခဒိန်ရဲ့အမှတ်စဉ်(၆)မှာ ပါရှိရမယ့် လားဃ္ဃူ လို့ခေါ်တဲ့ လတစ်လပျောက် နေတယ်လို့ မဆိုနိုင်သလို လားနွီး နဲ့ လားဃို့ လို့ ခေါ်တဲ့လများဟာလည်း ကရင်ပြက္ခဒိန်ရဲ့ အမှတ်စဉ်(၆)နဲ့အမှတ်စဉ်(၇)တို့မှာမှားယွင်းစွာ တည်ရှိနေကြတဲ့လများလို့မဆိုနိုင်ပါဘူး။

(၁၁)တပို့တွဲလတွင်မြေပြန့်ဒေသများ၌စပါးရိပ် သိမ်းပြီးစီးခြင်းဆိုတာကတော့ပြာသိုလဆန်း(၁) ရက်မှာကျရောက်တဲ့ ကရင်နှစ်သစ်ကူးနေ့ဟာ မြေပြန့်ဒေသမှာနေထိုင်တဲ့ ကရင်လူမျိုးတို့ရဲ့ စပါးရိပ်သိမ်းဆဲကာလဖြစ်ခြင်းကြောင့် ပြာသို လဆန်း(၁)ရက်မှာကျင်းပတဲ့ ကရင်နှစ်သစ်ကူး ပွဲတော်ကို လွတ်လပ်ပျော်ရွှင်စွာ ပါဝင်ဆင်နွှဲ နိုင်ခြင်းမရှိကြဘူး။ တပို့တွဲလမှာတော့ ကရင် လူမျိုးတို့ဟာ စပါးရိပ်သိမ်းလို့ ပြီးစီးသွားပြီ ဖြစ်တဲ့အတွက် တပို့တွဲလမှာကျင်းပတဲ့ ကရင် နှစ်သစ်ကူးပွဲတော်ကို လွတ်လပ်ပျော်ရွှင်စွာ ပါဝင်ဆင်နွှဲနိုင်ကြတယ်။ ဒါကြောင့် ကရင်

နှစ်သစ်ကူးနေ့ကို တပို့တွဲလဆန်း(၁)ရက်သို့ ပြောင်းလဲသတ်မှတ်ရခြင်းဖြစ်တယ်လို့ ဆိုလိုခြင်းဖြစ်ပါတယ်။

အထက်ပါ မိန့်ကြားချက်နဲ့ပတ်သက်ပြီး ဆွေးနွေးတင်ပြရမယ်ဆိုရင် တောင်ပေါ်ဒေသမှာနေထိုင်ကြတဲ့ ကရင်လူမျိုးအချို့က ပြာသိုလဆန်း(၁)ရက်မှာကျရောက်လေ့ရှိတဲ့ ကရင်နှစ်သစ်ကူးနေ့ကို မင်္ဂလာမရှိတဲ့နေ့လို့ အယူရှိ(ယုံကြည်လက်ခံ)ခြင်းကြောင့် တောင်ပေါ်မြေပြန့်ဒေသနှစ်ရပ်လုံးမှာ နေထိုင်ကြတဲ့ ကရင်တစ်မျိုးသားလုံးနဲ့သက်ဆိုင်တဲ့ ကရင်နှစ်သစ်ကူးနေ့ကို တပို့တွဲလဆန်း(၁)ရက်သို့ ပြောင်းလဲသတ်မှတ်ခြင်းဟာ လျော်ကန်သင့်မြတ်မှုမရှိသလို ပြာသိုလဆန်း(၁)ရက်မှာကျရောက်တဲ့ ကရင်နှစ်သစ်ကူးနေ့ဟာ မြေပြန့်ဒေသမှာနေထိုင်ကြတဲ့ ကရင်လူမျိုးတို့ရဲ့ စပါးရိပ်သိမ်းဆဲကာလဖြစ်ခြင်းကြောင့် တောင်ပေါ်မြေပြန့်ဒေသနှစ်ရပ်လုံးမှာ နေထိုင်ကြတဲ့ ကရင်တစ်မျိုးသားလုံးနဲ့သက်ဆိုင်တဲ့ ကရင်နှစ်သစ်ကူးနေ့ကို တပို့တွဲလဆန်း(၁)ရက်သို့ ပြောင်းလဲသတ်မှတ်ခြင်းဟာလည်း လျော်ကန်သင့်မြတ်မှုမရှိဘူးလို့ဆိုရမှာဖြစ်ပါတယ်။

၁၉၆၇-ခုနှစ် ရောဝတီတိုင်း၊ ပုသိမ်မြို့နယ်မှာ ကျင်းပပြုလုပ်ခဲ့တဲ့ ကရင့်ယဉ်ကျေးမှုဆိုင်ရာ နှီးနှောဖလှယ်ပွဲကြီးမှာ-
(၁)ကရင်လူမျိုးတို့ နှစ်သစ်ကူးသောလသည် ပြာသိုလ(သို့မဟုတ်)တပို့တွဲလတစ်လတည်းသာ ဖြစ်သင့်သောကြောင့် ကရင်လူမျိုးတို့၏ နှစ်၊လ၊ ရက်များနှင့် ဗမာလူမျိုးတို့၏ နှစ်၊လ၊ရက်များ ပူးတွဲပါဝင်သော ကရင်ပြက္ခဒိန်မှန်တစ်စောင်ကို သုတေသနပြုဖော်ထုတ်ရန်
(၂)ထိုသို့ သုတေသနပြု ဖော်ထုတ် ရရှိလာသည့် ကရင်ပြက္ခဒိန်မှန်တွင် ဖော်ပြထားသော ကရင် နှစ်ဆန်း(၁)ရက်အား ကရင်နှစ်သစ်ကူးနေ့ အဖြစ် ကရင်ပြည်သူလူထု၏ဆန္ဒသဘောထား နှင့်အညီသတ်မှတ်အတည်ပြုရန်
(၃)အဆိုပါ ကရင်ပြက္ခဒိန်မှန်ဖော်ထုတ်ရေး သုတေသနလုပ်ငန်းအား အောင်မြင်ပြီးမြောက် အောင်လုပ်ဆောင်နိုင်ခြင်းမရှိသေးသည့်ကာလ တွင်ကရင်နှစ်သစ်ကူးပွဲတော်ကို ၁၉၃၈-ခုနှစ် မှ စတင်၍ယနေ့အထိကရင်နှစ်သစ်ကူးနေ့အဖြစ် သတ်မှတ်ကျင်းပလာခဲ့သည့်ပြာသိုဆန်း(၁)ရက် တွင်ပင်စုစည်းညီညွတ်စွာဆက်လက်ကျင်းရန် စတဲ့ဆုံးဖြတ်ချက်များကိုချမှတ်ခဲ့ပါတယ်။

ဒါကြောင့် ယနေ့ကရင်အမျိုးသားများအနေနဲ့ ဖော်ပြပါဆုံးဖြတ်ချက်များကိုလိုက်နာပြီးစုစည်း ညီညွတ်သည့် တစ်ခုတည်းသော ကရင် နှစ်သစ်ကူးနေ့ပြန်လည်ဖြစ်ပေါ်လာရေးအတွက် ကြိုးပမ်းဆောင်ရွက်ကြရန် တာဝန်ရှိပါကြောင်း လေးစားစွာတင်ပြအပ်ပါတယ်။

အမှန်မြင်၍အမြင်မှန်ကြပါစေ။

(လွတ်လပ်စွာသဘောကွဲလွဲနိုင်ပါတယ်)

ဝန်ခံချက်။ သရာစောဟားရေစီ ပြုစုသော ကရင်ရိုးရာနှစ်သစ်မင်္ဂလာပွဲတော် စာတမ်းအားမှီငြမ်းဖော်ပြပါသည်။

